အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited တည်ထောင်၍ Hospital, Hospital Suits, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများ အဆိုပြုတင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Botahtaung Health Care Co.,Ltd (ဗိုလ်တထောင် ဟဲ(သ်)ကဲ ကုမ္ပဏီလီမိတက် |
| | လုပ်ငန်း အဆိုပြုသူအမည် | - **ဦးအောင်ဇော်နိုင်(အဘ-ဦးအိုက်ထွန်း)** |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - Hospital, Hospital Suites, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်၊ မြေဧရိယာ (၃.၅၁)ဧကအနက် (၁.၉၃၁) ဧက |
| | မြေအကျယ်အဝန်း | - (၃.၅၁) ဧကအနက်မှ (၁.၉၃၁) ဧက |
| | မြေပိုင်ရှင် | - ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၅ နှုန်း |
| ၃။ | BOTစာချုပ်(မူကြမ်း)ပါမြေငှားရမ်းခနှင့် (မြေအသုံးချမှုပရီမီယံကြေးLand use Premium) | - မြေငှားရမ်းကာလမှာ တရားဝင် လက်မှတ်ရေးထိုး သည့်နေ့မှစ၍ (ကနဦးငှားရမ်း ကာလ) (၅၀)နှစ် ဖြစ်ပြီး (၁၀)နှစ် ၂ ကြိမ်သက်တမ်းတိုးမြှင့်မည် ဖြစ်ပါ သည်။<br>- (မြေအသုံးချမှုပရီမီယံကြေးLand use Premium) မြေ(၃.၅၁)ဧက အတွက် (၁ဧက) လျှင် US$(၂) သန်းနှုန်း<br>- ငှားရမ်းခ ကို (၅)နှစ် တစ်ကြိမ် နှစ်ဖက်ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်ဖြစ်ပြီး အကယ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%)ထက်မပိုစေဘဲ ပြန်လည်ပြင်ဆင်နိုင်မည်ဖြစ်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး |
| ၅။ | တည်ဆောက်ရေးကာလ | - ၂ နှစ် ၆ လ |

၆။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု — ကျပ် ၉၉,၄၄၀.၀၀ သန်း

ထည့်ဝင်မည့်ရင်းနှီးမြှုပ်နှံမှုပမာဏ

( US$ သန်း)

| No | Description | Kyat | USD | Total Equivalent Kyat |
|---|---|---|---|---|
| 1 | Land Use Premium | - | 4.05 | 5,065.00 |
| 2 | Design Development | - | 2.00 | 2,500.00 |
| 3 | Site Setup and Infrastrucuture | 1,500.00 | - | 1,500.00 |
| 4 | Building | 36,600.00 | - | 36,600.00 |
| 5 | Construction Matrial + M&E Equipments | - | 22.61 | 28,266.19 |
| 6 | Medical Equipment & Other Assets | 899. 8 0 | 9.82 | 13,173.13 |
| 7 | Interest During Construction | 10,160.96 | 1.74 | 12,335.79 |
| | Total | 49,160.76 | 40.22 | 99,440.10 |

၇။ ဝန်ထမ်းအင်အား — **၁၀၅၄ ဦး**

ပြည်တွင်း — ၁၀၅၄ဦး(အနိမ့်ဆုံးဝန်ထမ်းလစာမှာကျပ်၁၈၀,၀၀၀)
(အမြင့်ဆုံးဝန်ထမ်းလစာမှာကျပ် ၁၅,၀၀,၀၀၀)

၈။ ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) — ကျပ် ၃၁,၁၈၉.၄၄ သန်း

ကုမ္ပဏီ၏ အသုံးစရိတ် — ကျပ် ၂၄,၂၂၂.၅၅ သန်း

ကုမ္ပဏီ၏ အသားတင်အမြတ် — ကျပ် ၆,၉၆၆.၈၉ သန်း

၉။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်)

ဝင်ငွေခွန် — ကျပ် ၂,၃၂၂.၃၀ သန်း

ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၈၉၅.၁၈ သန်း

၁၀။ အရင်းကြေကာလ — -

၁၁။ အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) — ၁၁.၅၆ %

၁၂။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်)

၁၃။ ဆေးရုံ၏(ဆဋ္ဌမနှစ်)ဝန်ဆောင်နိုင်မည့် လူနာအရေအတွက်နှင့် နှုန်းထား

| | လူနာအရေအတွက် | နှုန်းထား | ကျပ်(သန်း) ဝင်ငွေ |
|---|---|---|---|
| Inpatient Depertment (IPD) | ၂,၂၇၃ | ၁.၇၂၅၄ | ၃,၉၂၀.၈၃ |
| Outpatient Depertment(OPD) | ၂၉,၇၄၅ | ၀.၀၈၂၈ | ၂,၄၆၂.၈၇ |
| Emergency Depertment(ED) | ၈၉၉ | ၁.၀၉၇၄ | ၉၈၆.၅၆ |
| Ancillary Service | ၁,၂၀၂ | ၀.၀၂၈၈ | ၃၄.၉၁ |

| | | |
|---|---|---|
| ၁၄။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့် တောင်းခံခြင်းဆေးရုံသုံးစက်ကိရိယာပစ္စည်းများနှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများ | - US$ ၃၂.၄၂၈ သန်း |
| ၁၅။ | CSR | - CSR လုပ်ငန်းများအတွက် နှစ်စဉ်အသား တင်အမြတ်ငွေ၏ ၀.၅% ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးလုံခြုံရေး စီမံချက်၊ အရေးပေါ် ကာကွယ်တားဆီးစီမံချက်များပါဝင်သည့် အစီရင်ခံစာ ကို တင်ပြထားပါသည်။ |
| ၁၇။ | အခြား | - စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတွင် ကျပ် ၉၉,၄၄၀.၁၀သန်းတွင်<br>Shareholders' Loan (၃၀%) ကျပ် ၂၉,၈၃၇.၃၄ သန်း<br>Local Loan (၂၅%) ကျပ် ၂၄,၇၆၅.၄၂ သန်း<br>ForeignLoan (၁၅%) ကျပ် ၁၅,၀၀၀.၀၀ သန်း (US$ ၁၂.၀၀သန်း)<br>ချေးငွေစုစုပေါင်း (၇၀%) ကျပ် ၆၉,၆၀၂.၇၆ သန်း |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက - ၅(အ)/မ-၀၁၀/၂၀၁၆ (၂၁၉)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited တည်ထောင်၍ Hospital, Hospital Suites, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများ အား အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ် ၊ ကုန်သည်လမ်း၊ အမှတ်(၃၅၁-၃၆၁)၊ မြန်မာ့မီးရထား ရုံးချုပ်မြေနေရာရှိ မြေ(၃.၅၁) ဧကအနက်မှ (၁.၉၃၀) ဧကတွင် Hospital, Hospital Suites, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်း အား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ ၂၀၁၆ ခုနှစ်၊ဇန်နဝါရီလ(၇) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၆)သို့ မြန်မာ့မီးရထားရုံးချုပ်အဆောက်အဦနှင့်မြေအား တင်ဒါအောင်မြင်သည့် ကုမ္ပဏီနှင့် မြန်မာ့မီးရထားတို့ တိုက်ရိုက်ငှားရမ်း စာချုပ်ချုပ်ဆိုခွင့်ပြုရန် တင်ပြမှုအား သဘောတူ ခွင့်ပြုခဲ့ပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်မှ မြေဧရိယာ (၃.၅၁)ဧက ပေါ်တွင် ရင်းနှီးမြှုပ်နှံမှုအား စီမံကိန်းအပိုင်း(၁)နှင့်အပိုင်း(၂)အဖြစ် ဆောင်ရွက်ရန်စီစဉ်ထားပြီး ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်၏ Subsidiary Company ဖြစ်သော Botahtaung Health Care Co.,Ltd မှ စီမံကိန်းအပိုင်း(၁)အား Hospital, Hospital Suites, Hospital Service Apartment နှင့် Retail (Health& Lifestyle) လုပ်ငန်းနှင့် ရင်းနှီးမြှုပ်နှံမှု အပိုင်း(၂)အား ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှုကုမ္ပဏီလီမိတက်၏ Joint Venture Company ဖြစ်သော Shwe Taung Hyday Development Co., Ltd မှရုံးခန်းနှင့် အဆင့်မြင့်အိမ်ရာများ (Office & Service Apartment) တည်ဆောက်၍ ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်း၊ ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်မှ မြေ(၁.၉၃၀) ဧကအား စီမံကိန်း အပိုင်း(၁) အဖြစ် ရင်းနှီးမြှုပ်နှံမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ အဆိုပြုချက်နှင့်အတူ Shwe Taung Development Co.,Ltd နှင့် ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာမီးရထား တို့အကြားချုပ်ဆိုမည့် BOTစနစ်ဖြင့် ငှားရမ်းသဘောတူစာချုပ်

(မူကြမ်း)၊ မြေငှားစာချုပ် (မူကြမ်း)၊ Shwe Taung Development Co.,Ltd နှင့် Botahtaung Health Care Co.,Ltd တို့ချုပ်ဆိုမည့် Development Agreement စာချုပ်(မူကြမ်း) တို့အား တင်ပြထားပါသည်။

၅။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Shwe Taung Development Co., Ltd တို့ ချုပ်ဆိုမည့် မြေငှားရမ်းသဘောတူစာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ တရားဝင်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (ကနဦးငှားရမ်းကာလ)(၅၀)နှစ်ဖြစ်ပြီး (၁၀)နှစ်(၂) ကြိမ်သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။

(ခ) Shwe Taung Development မှ (Land use premium )မြေ အသုံးချမှု ပရီမီယံကြေးအား မြေ (၁)ဧက လျှင် US$(၂) သန်းနှုန်းနှင့် မြေ (၃.၅၁)ဧက အတွက်(၇.၀၂)သန်းပေးသွင်းရမည်ဖြစ်ပြီး တည်ဆောက်ရေးကာလ (၂)နှစ် နှင့် (၆)လပြည့်သည့်နေ့ သို့မဟုတ် အဆောက်အဦအားလုံး စတင်ဖွင့်လှစ်သည့်ရက် နှစ်ခုအနက် စောရာရက်မှစ၍ ယင်းအဆောက်အဦအတွက် မြေငှားရမ်းခကို ပေးသွင်းရမည်။

(ဂ) နှစ်စဉ်မြေငှားရမ်းခကို (၁)စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၁၅) နှုန်းဖြင့် ပေးသွင်းရမည်ဖြစ်ပါသည်။

(ဃ) မြေငှားရမ်းခ အနေဖြင့် မြေပေါ်ရှိ အဆောက်အဦအားလုံး ငှားရမ်းအသုံး ပြုနိုင်သည့် ဧရိယာ(Net Lettable Area)အား (၄၆,၄၆၈) စတုရန်းမီတာ သတ်မှတ်မည်ဖြစ်ပါသည်။

(င) ငှားရမ်းခ ကို (၅)နှစ် တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်ဖြစ်ပြီး အကယ်၍ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%)ထက်မပိုစေဘဲ ပြန်လည် ပြင်ဆင်နိုင်မည် ဖြစ်သည်။

(စ) စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရ သော်လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှုအရ သော်လည်းကောင်း၊ ပြည်တွင်း၊ ပြည်ပကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်နိုင်ပြီး ပူးပေါင်းဆောင်ရွက်ရာတွင် အငှားချထားခြင်း ခံရသူသည် ၎င်းနှင့်ပူးပေါင်း ဆောင်ရွက်မည့် အခြားကုမ္ပဏီများနှင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ အငှားချထားခြင်းခံရသူနှင့် အငှားချထားခြင်း ခံရသူပါဝင်သည့် ၎င်းဖက်စပ်ကုမ္ပဏီ တို့သည် **Develop-ment Agreement** များ ချုပ်ဆို၍ ဆောင်ရွက်ပြီး ထိုသို့ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(ဆ) အငှားချထားခံရသည့် ကုမ္ပဏီအနေဖြင့် ငှားရမ်းခြင်း သက်တမ်းကုန်ဆုံးသည့် အခါ(သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃)လ အတွင်း အငှားချထားခြင်းခံရသူက အငှားချထားသည့် မြေနှင့် အဆောက်အဦ များ၊ ၎င်းမြေပေါ်ရှိ အငှားချထားခြင်းခံရသူက ဆောက်လုပ်ထားသော အဆောက်အဦနှင့် ပစ္စည်းများ

အားလုံး မည်သည့် အဖိုးစားနားမျှ မပါရှိဘဲ အငှားချထားသူအား ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်ဖြစ်သည်။

(ဈ) ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

၆။ လုပ်ငန်း၏သက်တမ်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂)နှစ် နှင့် (၆) လကြာမြင့်မည် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၉၉,၄၄၀သန်းဖြစ်ပြီး ၄င်းတွင် ချေးငွေ ကျပ် ၆၉,၆၀၂.၇၆ သန်းပါဝင်ပါသည်။ ဆေးရုံသုံး စက်ပစ္စည်းများ၊စက်ကိရိယာပစ္စည်း၊ ဆောက်လုပ်ရေးသုံးပစ္စည်းများ တန်ဘိုး အမေရိကန် ဒေါ်လာ ၃၂.၄၂၈ သန်း ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု တွင် ထည့်ဝင်မှု အမျိုးအစားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

( Kyat / US$ သန်း)

| No | Description | Kyat | USD | Total Equivalent Kyat |
|---|---|---|---|---|
| 1 | Land Use Premium | - | 4.05 | 5,065.00 |
| 2 | Design Development | - | 2.00 | 2,500.00 |
| 3 | Site Setup and Infrastrucuture | 1,500.00 | - | 1,500.00 |
| 4 | Building | 36,600.00 | - | 36,600.00 |
| 5 | Construction Matrial + M&E Equipments | - | 22.61 | 28,266.19 |
| 6 | Medical Equipment & Other Assets | 899. 8 0 | 9.82 | 13,173.13 |
| 7 | Interest During Construction | 10,160.96 | 1.74 | 12,335.79 |
| | Total | 49,160.76 | 40.22 | 99,440.10 |

**(အမေရိကန် ၁ဒေါ်လာလျှင် ကျပ်၁၂၅၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။)**

၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၀၅၄)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းမှာ ပုဂ္ဂလိကဆေးရုံဝန်ဆောင်မှု လုပ်ငန်းနှင့် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ဆောင်မည်ဖြစ်ပြီး ကျန်းမာရေးဆိုင်ရာ စစ်ဆေးမှုများ ပြုလုပ်ပေးခြင်း၊ ကျွမ်းကျင်ဝန်ထမ်းများဖြင့် ရောဂါရှာဖွေခြင်း၊ လိုအပ်သော ဆေးဝါးကုသမှုပေးခြင်း၊ ဆေးရောင်းချပေးခြင်း တို့ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်း ကုတင်(၃၀၀)ဆံ့ ဆေးရုံ၏ဆဋ္ဌမနှစ် ဝန်ဆောင်နိုင်မည့် လူနာအရေအတွက်နှင့် နှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်

| | | လူနာအရေအတွက် | ကျပ်(သန်း) နှုန်းထား |
|---|---|---|---|
| Inpatient Department(IPD) | - | ၂,၂၃၃ | ၁.၇၂၅၄ |
| Outpatient Department(OPD) | - | ၂၉,၇၄၅ | ၀.၀၈၂၈ |
| Energency Department(ED) | - | ၈၉၉ | ၁.၀၉၃၄ |
| Ancillary Service | - | ၁,၂၁၂ | ၀.၀၂၈၈ |

၁၁။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၁,၁၈၉.၄၄ |
| (ခ) | အသုံးစရိတ် | ၂၄,၂၂၂.၅၅ |
| (ဂ) | အသားတင်အမြတ် | ၆,၉၆၆.၈၉ |

၁၂။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ် မြောက်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂,၃၂၂.၃၀ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်ကျပ် ၈၉၅.၁၈ သန်း ရရှိမည်ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၁၅နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၁.၅၆% ဖြစ်ပါ သည်။

၁၃။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက တည်ဆောက်ဆဲကာလတွင် ပြည်တွင်းလုပ်သားအင်အား (၂၀၀၀)ဦး၊ တည်ဆောက်ပြီးကာလတွင် (၁၅၀၀) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ် ၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ ရှိ မြေ(၃.၅၁) ဧကအနက်မှ (၂.၀၂၆) ဧကအား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ (၆၀၀၀၀၀) နှုန်း၊ 1sqft= ၆.၇၉ဒေါ်လာ၊ 1sqm=၇၃.၁၈ ဒေါ်လာနှုန်းဖြင့် ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုး တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် နှစ်ကြိမ်ငှားရမ်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်း

ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြု လုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထား ပါကြောင်း နှင့် ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၆)အရ Botahtaung Health Care Co.,Ltd ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်းထောက်ခံတင်ပြထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းများ ကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမရေးထိခိုက်ပျက်ဆီးမှုများကို လျော့နည်းစေ ရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏(၁%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင် နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းဆစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများ နှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည်စီမံခန့်ခွဲမှုအစီအစဉ်၊စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ၊ညွှန်ကြားချက်များ၊ မြို့တော်စည်ပင်သာယာရေး ကော်မတီ၏ ဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ် ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ သဘောထားများရယူဆောင်ရွက်ရန် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **( ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။) နောက်ဆက်တွဲ-ခ**

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ** ကုမ္ပဏီအနေဖြင့် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပြီး သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန်၊ သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ဃ) **ကျန်းမာရေးဝန်ကြီးဌာနမှ** ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ် ၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ ရှိ မြေ(၃.၅၁) ဧကပေါ်တွင် ရင်းနှီးမြှုပ်နှံသူအနေဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ Botahtaung Health Care Co.,Ltd ၏ ပုဂ္ဂလိက ဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ကျန်းမာရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဃ)**

၁၄။ ငွေကြေးအထောက်အထားအဖြစ် Shwe Taung Development Co., Ltd ကုမ္ပဏီ လီမိတက် အမည်ဖြင့် (၂၄-၂-၂၀၁၆) ရက်စွဲဖြင့် CB Bank ၌ အမေရိကန်ဒေါ်လာ ၂.၃၉၅ သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြလာပါသည်။

၁၆။ ဝန်ထမ်းများ၏ လုပ်ခလစာဝင်ငွေ သိန်းနှစ်ဆယ်ကျော်ပါက အခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း၊ အလုပ်သမား သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်၊ မီးဘေးလုံခြုံရေး ဆောင်ရွက်မည့် ဝန်ခံကတိပြုစာ၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းလည်ပတ်မှုမှ ရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၀.၅% ကို ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု လုပ်ငန်း အစီအစဉ်များတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၇။ အဆိုပြုလုပ်ငန်းအား ၂၀၁၆ ခုနှစ် မတ်လ ၇ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၀/၂၀၁၆ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၈။ **စိစစ်တင်ပြချက်**

(က) ဤလုပ်ငန်းသည် ကျန်းမာရေးဝန်ဆောင်မှု လုပ်ငန်းဖြစ်သော ကြောင့် မြန်မာနိုင်ငံတွင် ဤရင်းနှီးမြှုပ်နှံမှုကို လက်ခံမည်ဆိုပါက အလုပ်အကိုင် အခွင့်အလမ်းရရှိမည့် ဖြစ်သည့်အပြင် ပြည်သူကျန်းမာရေးအတွက် အရည်အသွေး ပြည့်ဝစွာဖြင့် ဝန်ဆောင်မှု ပေးနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ဆေးကုသရေးများ ပါဝင်သောကြောင့် လုပ်ငန်းလည်ပတ်ချိန်တွင် ဓါတ်ခွဲခန်း၊ အခြားသွေးနှင့်ဆက်စပ်သော အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်ခြင်းမပြုပါကအန်ဆိုးများထွက်ရှိနိုင်ခြင်း၊ ရောဂါများပြန့်ပွားကူးစက်နိုင်ခြင်း ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ် စေနိုင်၍ ကျန်းမာရေး ဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအတိုင်း တိကျစွာလိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ရထားပို့ဆောင်ရေးဝန်ကြီးဌာနနှင့် Shwe Taung Development Co.,Ltd တို့၏ မြေငှားစာချုပ်တွင် နှစ်စဉ်မြေငှားရမ်းခကို (၁)စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၁၅)နှုန်းဖြင့်ဖော်ပြထားသော်လည်း ရန်ကုန်တိုင်းဒေသကြီး၏ သဘောထားမှတ်ချက်တွင်မြေ(၃.၅၁)ဧကအနက်မှ (၂.၀၂၆) ဧကအား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ(၆၀၀၀၀၀)နှုန်း၊ 1sqft= ၆.၇၉ $၊ 1sqm=၇၃.၁၈ $ကြောင်း ဖော်ပြထားပါသည်။

(ဃ) ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၆) ရက်နေ့တွင် ကျင်းပသော အမှုဆောင်ကော်မတီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၆)မှ မြန်မာ့မီးရထားနှင့် Shwe Taung Development Co.,Ltd တို့ ချုပ်ဆိုမည့် B.O.T စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် ဘဏ္ဍာရေး ဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံရန်မူအားဖြင့် သဘောတူကြောင်း တင်ပြထားပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါ ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းများ အားခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့်အမှတ် / ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|---|
| ၁ | Five Oceans Services Ltd(သမုဒ္ဒရာငါးစင်းဝန် ဆောင်မှုလီမိတက်) | မနသ-၇၉၄/၂၀၁၁ (၂၄-၂-၂၀၁၁) | နိုင်ငံတကာအဆင့်မီ မြို့တော်ဆေးရုံ နှင့်ဆက်စပ်သောဆေးကုသမှုဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း | အကွက်အမှတ် (မ-၂၂)၊ ဦးပိုင်အမှတ် (၃၅)၊ (၆၅)လမ်းနှင့် (၆၆)လမ်းကြား၊ အကွက်အမှတ် (ခ-၁၀)၊ဦးပိုင်အမှတ်(၁၁-က) နှင့်(၁၃-က) သိပ္ပံလမ်း၊ | **မြန်မာနိုင်ငံသား** |

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့်အမှတ် / ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|---|
| | | | | မဟာမြိုင်(၁)ရပ်ကွက်၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး။ | |
| ၂ | Fourteen Star Network Dawei Co., Ltd.(ကြယ်တစ်ဆယ့်လေးလုံးကွန်ယက် ထားဝယ်ကုမ္ပဏီလီမိတက်) | မနသ-၁၀၀၁/၂၀၁၄ (၁၁-၁၀-၁၄) | BOTစနစ်ဖြင့်ကုတင် ၅၀ ဆံ့ ပုဂ္ဂလိကဆေးရုံတည်ဆောက်၍ ဆေးရုံဝန်ဆောင်မှုလုပ်ငန်း | တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ် မြို့၊ ဆန်းချီရပ်ကွက်၊ ကမြောကင်းလမ်း ဦးပိုင်အမှတ် (၉၂၂)၊ အကွက်အမှတ်- ၂၄ ရှိ မြေဧရိယာ ၂.၀၀ဧက | မြန်မာနိုင်ငံသား |

**ဆုံးဖြတ်ရန်အချက်**

၁၉။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထား ရုံးချုပ်မြေနေရာ ရှိ မြေ(၃.၅၁) ဧကအနက်မှ (၁.၉၃၁) ဧကတွင် Hospital, Hospital Suites, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းကိုစစ်နှင့်စပ်လျဉ်း၍ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Botahtaung Health Care Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Hospital, Hospital Suits, Hospital Service Apartment Retail (Health& Lifestyle)နှင့် ၎င်းတို့နှင့်သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၉၉,၄၄၀ သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်းဝန်ဆောင်မှု ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် |
| အရင်းကြေကာလ | - | |
| IRR | - | ၁၁.၅၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၄၀၁၈.၄၄ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂,၀၂၅.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၁,၇၁၆.၉၁ သန်း | ကျပ် ၁၁,၇၈၈.၂၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၈၈၄၅.၉၄ သန်း |
| ၆ | လောင်စာဆီ | | |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၂၀) ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၂၆၁) ဦး |
| ၉ | မြေနှင့် အဆောက်အဦး ငှားရမ်းခရငွေ | | ကျပ် ၅၂၃၃၉.၀၀ သန်း |
| ၁၀ | CSR ( %) | | ကျပ် ၄၇၀.၁၁ သန်း |
| ၁၁ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၀၅၄ဦး |
| | | | ပြည်တွင်းလုပ်သား (၁၀၅၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ် အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၁၇,၇၆၀.၃၅ သန်း | ကျပ် ၇၃၄၄၄.၄၂ သန်း |
| | | ၁:၄ | |

ကုမ္ပဏီအမည် - Botahtaung Health Care Company Limited

လုပ်ငန်း - Hospital, Hospital Suits, Hospital Service Apartment Retail (Health& Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | Botahtaung Health Care Company Limited မှ အဆိုပြုလွှာ တင်ပြခြင်း။ | ၁-၂-၂၀၁၆ | | |
| ၂ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၆)သို့ တင်ပြခြင်း | ၂၅-၃-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၀/၂၀၁၆) သို့တင်ပြခြင်း။ | ၇-၃-၂၀၁၆ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းနှင့် ဆုံးဖြတ်ချက်အားပြန်ကြားခြင်း။ | ၁၆-၃-၂၀၁၆ | | |
| ၅ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၉-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | |
| | (ဂ) ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ နှင့် HIC | ၁၉-၃-၂၀၁၆ | | (၆) ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၉-၃-၂၀၁၆ | ၂၂-၃-၂၀၁၆ | |
| | (င) ကျန်းမာရေးဝန်ကြီးဌာန | ၁၉-၃-၂၀၁၆ | ၂၄-၃-၂၀၁၆ | |
| ၆ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | - | - | |
| ၇ | ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး (၁/၂၀၁၆) (၇-၁-၁၆ ) ရက်စွဲဖြင့် မြန်မာ့မီးရထားရုံးချုပ် အဆောက်အဦ နှင့်မြေအား တင်ဒါအောင်မြင်သည့် ကုမ္ပဏီနှင့် မြန်မာ့မီးရထားတို့ တိုက်ရိုက်ငှားရမ်း စာချုပ်ချုပ်ဆိုခွင့်ပြုရန် မှု အား သဘောတူ ခွင့်ပြုခဲ့ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။ | | | |
| ၈ | ကုမ္ပဏီမှပြင်ဆင်ပြီး အဆိုပြုလွှာများ ပေးပို့ခြင်း | ၂၂-၃-၂၀၁၆ | | |
| | **စုစုပေါင်း ကြာမြင့်ရက် ( ၅၄ )ရက်** | | | |

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး



စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၀/၂၀၁၆(၂၀၁)

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ်(၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ မြေ(၃. ၅၁)ဧကအနက်မှ (၂. ၀၂၆)ဧကတွင် Hospital, Hospital Suits, Hospital Service Apartment Retail (Htalth & Lifestyle) နှင့် ၎င်းတို့နှင့်သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက တည်ဆောက်ဆဲကာလတွင် ပြည်တွင်းလုပ်သားအင်အား (၂၀၀၀)ဦး၊ တည်ဆောက်ပြီးကာလတွင် (၁၅၀၀)ဦး လုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ်(၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ မြေ(၃. ၅၁)ဧကအနက်မှ (၂. ၀၂၆)ဧကအား တစ်နှစ်လျှင်အမေရိကန်ဒေါ်လာ(၆၀၀၀၀၀)နှုန်း၊ (1sqft= 6.79 $, 1sqm=73.18$)နှုန်းဖြင့် ကနဦး နှစ်(၅၀)နှင့် (၁၀+၁၀)နှစ် သက်တမ်းတိုး ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၄. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၀၆)အရ Botahtaung Health Care Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗိုလ်တထောင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
✓ Botahtaung Health Care Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

M4-289
24.3.16



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၁၈၄ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Botahtaung Health Care Company Limited မှ Hospital Suits, Hospital Services Apartment Retail(Health & Lifestyle)နှင့် ၎င်းတို့နှင့်သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၃-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၀/ ၂၀၁၆(၁၉၈)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Botahtaung Health Care Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ်(၃၅၁-၃၆၁) မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ မြေ ၃.၅၁ဧက အနက်မှ ၂.၀၂၆ဧကတွင် Hospital Suits, Hospital Services Apartment Retail(Health & Lifestyle)နှင့် ၎င်းတို့နှင့်သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်(၅)လဖြစ်ကြောင်း၊ Apartment မှာ (၂၃)ထပ်ဖြစ်ပြီး အောက်(၄)ထပ်တွင် ဆေးရုံသုံးပစ္စည်းများရောင်းချသည့် ဆိုင်ခန်းများနှင့် Supermarket တို့ကို ဆောင်ရွက်မည်ဖြစ်ပြီး၊ (၅)ထပ်မှ(၁၈)ထပ်ထိမှာဆေးရုံဖြစ်ကြောင်း၊ ဆေးရုံတွင်အခန်း(၂၅၀)ရှိပြီး ကုတင်(၂၀၀)လုံးပါဝင်မည်ဖြစ်ကြောင်း၊ မီးဘေးနှင့်သဘာဝဘေးအန္တရာယ်မှကြိုတင်ကာရေးစီမံချက်၊ အလုပ်သမားသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၁%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်နှင့်လူမှုရေးမထိခိုက်စေရေး ထိန်းသိမ်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Botahtaung Health Care Company Limited မှ ဆေးရုံတည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် မြေတူးဖော်ခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်နှင့်ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ ဆေးရုံလုပ်ငန်းများဆောင်ရွက်ချိန်တွင်ထွက်ရှိလာမည့် စွန့်ပစ်ဆေးပစ္စည်းများ၊ ဓာတုဗေဒပိုးသတ်ဆေးရည်များ၊ ခွဲစိတ်ပြီးစွန့်ပစ်မည့် လူခန္ဓာကိုယ်အစိတ်အပိုင်းများနှင့်သွေးများကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Botahtaung Health Care Company Limited မှ Hospital Suits, Hospital Services Apartment Retail(Health & Lifestyle)နှင့် ၎င်းတို့နှင့်သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၁%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial Environmental Examination –IEE)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းများနှင့်အညီအစီရင်ခံစာရေးသားတင်ပြရန်။

( ဂ ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan –EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မြို့တော်စည်ပင်သာယာရေးကော်မတီ၏ဥပဒေ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၀၂၆၃ / ၂၀၁၆။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ( ၂၂ ) ရက်။

အကြောင်းအရာ။ ။ Botahtaung Health Care Company Limited ၏ Hospital, Hospital Suits, Hospital Service Apartment Retail (Health & Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှု လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။

ရည်ညွှန်းချက်။ ။(၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၉)ရက် နေ့စွဲပါ စာအမှတ် ရက-၅(အ)/မ-၀၁၀/ ၂၀၁၆(၂၀)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Botahtaung Health Care Company Limited မှ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၉) ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ မြေ (၃.၅၁)ဧကအနက်မှ (၂.၀၂၆)ဧကတွင် Hospital, Hospital Suits, Hospital Service Apartment Retail (Health & Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်း ဆောက်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ သေချာစွာ စိစစ်နိုင်ရန် ဖိတ်ကြားချက်အရ Botahtaung Health Care Company Limited မှ တာဝန်ရှိသူများ ဖြစ်ကြသော ဦးအောင်သန်း၊ ဒေါက်တာရည်ဦး နှင့် Mr. Lin Swe Lee တို့သည် (၂၁.၃.၂၀၁၆)ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ လာရောက်၍ စီမံကိန်းနှင့် ပတ်သက်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ MIC Projects Assessment Committee အဖွဲ့ဝင်များ ဖြစ်ကြသော ဥက္ကဋ္ဌ ဦးဝင်းနိုင်၊ အတွင်းရေးမှူး ဦးကြည်လွင်၊ အဖွဲ့ဝင်များ ဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးကိုကိုကြီး၊ ဦးခင်မောင်ဝင်း၊ ဦးခင်မောင်ဌေး၊ ဦးခင်မောင်မောင်တို့ တက်ရောက်ခဲ့ကြပြီး သိလိုသည်များကို မေးမြန်းဆွေးနွေးကြပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်တွင် တည်ဆောက်မည့် Hospital, Hospital Suits, Hospital Service Apartment Retail (Health & Lifestyle) နှင့် ၎င်းတို့နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ | BQ တွင် ပါဝင်သော | ထောက်ခံတင်ပြသော |
|---|---|---|---|---|
| ၁။ | Cement | 16000 Ton | 16000 Ton | 16000 Ton |
| ၂။ | Rebar | 24200 Ton | 24200 Ton | 10471 Ton |
| ၃။ | Steel Structure | 225 Ton | 225 Ton | 225 Ton |
| ၄။ | Steel Structure for King Post | 720 Ton | 720 Ton | 720 Ton |
| ၅။ | Steel Forwork | 210000 $m^2$ | 210000 $m^2$ | 195552 $m^2$ |

Ton = တန်, $m^2$ = စတုရန်းမီတာ

၆။ အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-Con System ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဥက္ကဋ္ဌ(ကိုယ်စား)
(ကြည်လွင်၊အတွင်းရေးမှူး)
MIC Projects Assessment Committee
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Botahtaung Health Care Company Limited
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၈ မခ(က)၂၀၁၆/ ၄၅၇၅

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ( ၂၄ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉-၃-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၀/၂၀၁၆(၁၉၉)

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ Hospital, Hospital Suits, Hospital Service Apartment Retail (Health & Lifestyle)နှင့် သက်ဆိုင်သော ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Botahtaung Health Care Co., Ltd မှ အဆိုပြုတင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ (၂၄-၃-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဗဟိုအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂/၂၀၁၆)အရ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ်(၃၅၁-၃၆၁)၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ မြေဧရိယာ(၃.၅၁)ဧကပေါ်တွင် ရင်းနှီးမြှုပ်နှံသူအနေဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Botahtaung Health Care Co., Ltd ၏ ပုဂ္ဂလိကဆေးရုံလုပ်ငန်း ဆောင်ရွက်လိုခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန
- Botahtaung Health Care Co., Ltd

ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊
ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁) ရှိ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ
မြေဧရိယာ (၃. ၅၁)ဧကအနက်မှ (၂. ဝ၂၆)ဧကပေါ်တွင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့်

**Hospital/ Hospital Suits (Hospital Service Apartment)/**
**Retail (Health & Lifestyle) Complex**
**(Hospital & Lifestyle Mixed Development Project)**

လုပ်ကိုင်ရန်အတွက် အဆိုပြုတင်ပြချက်
အဆိုပြုလွှာ (၁)

**"BOTAHTAUNG HEALTH CARE COMPANY LIMITED"**

၂၀၁၆ ခုနှစ်

**Botahtaung Health Care Co., Ltd.**
Ahlone Tower, River View Garden Housing,
Strand Road, Ahlone Township, Yangon
Tel: +95 1 211430, Fax: 211946
Registered No. xxxx

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။ 035/BDD-MIC/02-16
နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ မတ်လ ( ) ရက်။

အကြောင်းအရာ ။ ။ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ၊ မြေဧရိယာ (၃. ၅၁)ဧကပေါ်တွင် ရင်းနှီးမြှုပ်နှံဆောင်ရွက်ခွင့် ရရှိရန် အဆိုပြုလွှာ တင်ပြခြင်း။

၁။ ကျွန်တော်များ ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ်နေရာဟောင်း နယ်မြေ(၂)ရှိ မြေဧရိယာ (၁၂. ၆၀၄)ဧကအား Office Buildiing, Commercial Complex, Hotel, Shopping Complex and Service Apartment စသည့် စီမံကိန်းများ တည်ဆောက်၍ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်အတွက် တင်ဒါအောင်မြင်ခဲ့ပါသည်။

အဆိုပါမြေ (၁၂. ၆၀၄)ဧကတွင် ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်နှင့်၊ ၎င်း၏ ဖက်စပ်ကုမ္ပဏီ ဖြစ်သော Shwe Taung Hyday Development Co., Ltd. (နောင်တွင် -Botahtaung Hyday Co., Ltd. - ဟုအမည်ပြောင်း) တို့မှ သက်ဆိုင်ရာ စီးပွားရေးလုပ်ငန်းများဆောင်ရွက်၍ ရင်းနှီးမြှုပ်နှံရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်- (၆၁၅/၂၀၁၃) (၉၂၉/၂၀၁၃)အသီးသီးဖြင့် ခွင့်ပြုမိန့် ရရှိခဲ့ပါသည်။

၂။ အဆိုပါ မြေနေရာအတွက် ရင်းနှီးမြှုပ်နှံစဉ်က ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်နှင့် ၎င်း၏ဖက်စပ် ကုမ္ပဏီ ဖြစ်သော Shwe Taung Hyday Development Co., Ltd. တို့၏ ရင်းနှီးမြှုပ်နှံမှု အစီအစဉ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | အသုံးပြုမည့် မြေဧရိယာ (ဧက) | ဆောင်ရွက်မည့်လုပ်ငန်း | ရင်းနှီးမြှုပ်နှံမှု အစီအစဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ (ကျပ် သန်း) |
|---|---|---|---|---|---|
| ၁ | Shwe Taung Development Co., Ltd. | ၈. ၈၄၄ | Hotel/ Service Apartment/ Shopping Complex | (၁၀၀%) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု | ၁၀၁,၉၀၈. ၉၆ |
| ၂ | Shwe Taung Hyday Development Co., Ltd. (နောင်တွင် Botahtaung Hyday Co., Ltd.) | ၃. ၇၆ | Office/ Commercial Complex/ Service Apartment | နိုင်ငံခြားရင်းနှီး မြှုပ်နှံမှု (Joint Venture) | ၄၅,၄၇၆. ၈၇၆ |

၃။ အထက်ဖော်ပြပါ စီမံကိန်းအား ( ၇-၇-၂၀၁၅)ရက်စွဲဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့ အမိန့်ကြော်ငြာစာအမှတ်၊ ၆၆/၂၀၁၅ ဖြင့်ရပ်ဆိုင်းခဲ့ပြီး၊ အဆိုပါရပ်ဆိုင်းခဲ့သော စီမံကိန်းအတွက် တစိတ်တဒေသ အစားထိုးမြေနေရာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထား ရုံးချုပ်မြေနေရာ မြေဧရိယာ (၃. ၅၁)ဧကအား ပြန်လည်ရရှိခဲ့ပါသည်။

၄။ အဆိုပါ ပြန်လည် အစားထိုးရရှိခဲ့သော မြေဧရိယာ (၃.၅၁)ဧကပေါ်တွင် ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်၏ ညီနောင်ကုမ္ပဏီဖြစ်သော Botahtaung Health Care Co., Ltd.မှ Hospital & Lifestyle Mixed Development Project နှင့် ၎င်း၏ဖက်စပ်ကုမ္ပဏီဖြစ်သော Botahtaung Hyday Co., Ltd. (ယခင်အမည် Shwe Taung Hyday Development Co., Ltd. ) မှ Office/ Commercial & Residential Mixed Development Project တို့အား အသီးသီးရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရည်ရွယ်ထားပါသည်။

၅။ မိမိတို့ ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်၏ ညီနောင်ကုမ္ပဏီဖြစ်သော Botahtaung Health Care Co., Ltd မှ Hospital & Lifestyle Mixed Development Project အား ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရာတွင် နိုင်ငံတကာ အဆင့်မှီ ဆေးရုံးနှင့် အခြားဆက်စပ် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ယခုအခါတွင် နိုင်ငံတကာမှ အတွေ့အကြုံရှိပြီး ဖြစ်သော ကုမ္ပဏီများနှင့် ဆွေးနွေးလျက်ရှိပါသည်။ အကယ်၍ အဆိုပါစီမံကိန်းတွင် နိုင်ငံတကာမှ အတွေ့အကြုံရှိပြီး ဖြစ်သော ကုမ္ပဏီများမှလည်း စိတ်ဝင်စားမှုရှိလာပြီး အကျိုးတူရင်းနှီးမြှုပ်နှံရန်အတွက် ကမ်းလှမ်းမှုများ ရှိလာခဲ့ပါက မိမိတို့မှ ယခု မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြထားခဲ့သော ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာ (သို့မဟုတ်) ကော်မရှင်၏ ခွင့်ပြုမိန့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဌာနများ၏ လမ်းညွှန်မှုရယူပြီး ပြန်လည်ပြင်ဆင် အတည်ပြုချက် ရယူသွားမည် ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ ကျွန်တော်များ ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမည့် Hospital & Lifestyle Mixed Development Project အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတွက် အဆိုပြုလွှာအားတင်ပြ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
ဒါရိုက်တာ
On Behalf of
Botahtaung Health Care Co., Ltd.

**Botahtaung Health Care Co., Ltd.**
Ahlone Tower, River View Garden Housing,
Strand Road, Ahlone Township, Yangon
Tel: +95 1 211430, Fax: 211946

Registered No. xxxx

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ မတ်လ ( 24 )ရက်။

အကြောင်းအရာ ။ ။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း အကြောင်းပြန်ကြားခြင်း။

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ကျွန်တော်များ Botahtaung Health Care Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ၊ မြေဧရိယာ (၃. ၅၁)ဧကပေါ်တွင် စီမံကိန်းပထမအဆင့် အနေဖြင့် Hospital/ Hospital Suits (Hospital Service Apartment)/ Retail (Health & Lifestyle) Complex (Hospital & Lifestyle Mixed Development Project) အား ရင်းနှီးမြှုပ်နှံရန်အဆိုပြု တင်ပြခဲ့ပြီးဖြစ်ပါသည်။

အဆိုပါ စီမံကိန်း ပထမအဆင့်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
On Behalf of
Botahtaung Health Care Co., Ltd.

**Botahtaung Health Care Co., Ltd.**
Ahlone Tower, River View Garden Housing,
Strand Road, Ahlone Township, Yangon
Tel: +95 1 211430, Fax: 211946

Registered No. xxxx

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ မတ်လ ( 24 )ရက်။

အကြောင်းအရာ ။ ။ Botahtaung Health Care Co., Ltd. ၏ Hospital & Lifestyle Mixed Development Project ကိစ္စအတွက် ရှင်းလင်းတင်ပြခြင်းကိစ္စ။

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ကျွန်တော်များ Botahtaung Health Care Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ၊ မြေဧရိယာ (၃. ၅၁)ဧကပေါ်တွင် စီမံကိန်းပထမအဆင့် အနေဖြင့် Hospital/ Hospital Suits (Hospital Service Apartment)/ Retail (Health & Lifestyle) Complex (Hospital & Lifestyle Mixed Development Project) အား ရင်းနှီးမြှုပ်နှံရန်အဆိုပြု တင်ပြခဲ့ပြီးဖြစ်ပါသည်။

အဆိုပါ စီမံကိန်း ပထမအဆင့်တွင် ဆေးရုံ (၁၅-ထပ်)၊ Hospital Suits (Hospital Service Apartment) (၁၇-ထပ်) နှင့် ကုတင် (၃၀၀)ဆံ့ ဖြစ်ကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
On Behalf of
Botahtaung Health Care Co., Ltd.

(၁) ကာကွယ်ရေးဦးစီးဌာနပိုင်မြေဧရိယာ (၁၂. ၆၀၄)ဧကဖြင့် စာချုပ်ချုပ်ဆိုခဲ့ပါသည်။

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူခြင်း၊




| Shwe Taung Development<br>(8.844)Acre<br>(8.398) Million USD | Shwe Taung Hyday Co., Ltd. (JV)<br>(3.76)Acre<br>(4.205) Million USD | ➡ | Total – (12.604)Acre<br><br>(12.604) Million USD |
|---|---|---|---|

(၃) (၁၂. ၆၀၄)ဧကအတွက် စာချုပ်ချုပ်ဆိုသည့် ပုံစံ




(၄) အစားထိုးရရှိသည့် မြေဧရိယာ (၃. ၅၁)ဧကပေါ်တွင် အောက်ပါအတိုင်း ခွဲဝေဆောင်ရွက်ရန် JV Partner သို့ အဆိုပြုထားပါသည်။




| BTT Hyday Co., Ltd.<br>(former name Shwe Taung Hyday Co., Ltd.)(JV)<br>(   )Acre | Shwe Taung Development or its subsidiary<br>(1.951 )Acre |
|---|---|

| | Shwe Taung | Shwe Taung Hyday (JV) | Total |
|---|---|---|---|
| | Million USD | Million USD | Million USD |
| ပေးသွင်းထားငွေ | 8.398 | 4.205 | 12.604 |
| အစားထိုးမြေကွက်အတွက်ကျသင့်ငွေ | 3.8 | 3.2 | 7 |
| ပိုငွေ | 4.598 | 1.005 | 5.604 |

(၅) စာချုပ်ချုပ်ဆိုသည့် ပုံစံ



**ရန်ကုန်တိုင်းဒေသကြီး ၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထားရုံးချုပ်မြေနေရာ ၊ မြေ (၃. ၅၁)ဧက၏ မြေငှားစာချုပ်**

၁။ ဤသဘောတူစာချုပ်ကို ၂၀၁၆ခုနှစ်၊ ---------------- (   )ရက်နေ့တွင် -------- မြို့၌ ဦးသူရိန်ဝင်း၊ မှတ်ပုံတင်အမှတ် (-- /---------) ၊ ဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော မြန်မာ့မီးရထား၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ပုပ္ပသီရိမြို့နယ် နေပြည်တော်၊ (နောင်တွင် -အငှားချထားသူ- ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) (မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၆) ရက်စွဲပါစာအမှတ်- ရက-၄/မ-ထွေ/၂၀၁၆ (၁၇၄) အရ) က တစ်ဖက်နှင့်

၂။ ဦးအောင်ဇော်နိုင်၊ မှတ်ပုံတင်အမှတ်၊ ၁၂/လမတ(နိုင်)၀၂၅၇၅၈ အုပ်ချုပ်မှု ဒါရိုက်တာ ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ (၇)လမ်းနှင့် ကမ်းနားလမ်းထောင့်၊ အမှတ် (၅၈၄) (၅)လွှာတွင် တည်ရှိသည့် Shwe Taung Development Co., Ltd.(နောင်တွင် -အငှားချထားခြင်းခံရသူ- ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ ဆက်ခံသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟုမှတ်ယူရမည်။) ကအခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

၃။ **အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း။** အငှားချထားသူသည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသည့် အငှားချထားသည့်မြေနေရာဖြစ်သော ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထားရုံးချုပ် မြေနေရာ၊ မြေ (၃. ၅၁)ဧကနှင့် အဆောက်အဦများကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ပြီး အငှားချထားခြင်း ခံရသူအား အငှားချထားခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါလုပ်ငန်းကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပြီး အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် စာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

၄။ **အငှားချထားသည့်မြေ တည်နေရာနှင့် ငှားရမ်းခြင်းသက်တမ်း။** ငှားရမ်းသည့် မြေတည်နေရာ၊ ငှားရမ်းခြင်း သက်တမ်းနှင့် ဆောင်ရွက်ရမည့် လုပ်ငန်းတို့မှာ အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရပါမည်-

(က) **အငှားချထားသည့်မြေ။** ရန်ကုန်တိုင်းဒေသကြီး ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထားရုံးချုပ်မြေနေရာရှိ ပူးတွဲ (၁)ဖြင့် တင်ပြထားသော မြေပုံတွင် အနီအမှတ်အသား ပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ (၃. ၅၁)ဧက ဖြစ်ပါသည်။

(ခ) **ငှားရမ်းမှုကာလ။** ဤစာချုပ်ကို အငှားချထားသည့်မြေပေါ်တွင် တည်ဆောက်မည့် အဆောက်အဦများ အားလုံး တည်ဆောက်ပြီးစီးသည့်နေ့ (သို့မဟုတ်) ငှားရမ်းခ စတင်ပေးသွင်းသည့်နေ့ နှစ်ခုအနက် စောသည့် ရက်မှ စတင်၍ ကနဦးနှစ်(၅၀)ငှားရမ်းခွင့်ပြုသည်။ ယင်းနောက်တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ

(သို့မဟုတ်) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (သို့မဟုတ်) ယင်းအချိန်တွင်ရှိမည့် တည်ဆဲရင်းနှီးမြှုပ်နှံမှုဥပဒေ မှ ခွင့်ပြုသည့် အများဆုံး ငှားရမ်းခြင်းကာလအထိ ငှားရမ်းကာလတိုးမြှင့်နိုင်သည်။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** Hospital/ Office/ Commercial Complex/ Service Apartment နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများကို အငှားချထားခြင်းခံရသူက မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်ရမည်ဖြစ်ပါသည်။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာငွေကျပ်သန်း (---------) ဖြစ်ပါသည်။

(င) **တည်ဆောက်ရေးကာလ။** တည်ဆောက်ရေးကာလ (၂)နှစ် နှင့် (၆)လ သတ်မှတ်မည်ဖြစ်ပြီး ယင်းတည်ဆောက်ရေးကာလအတွင်း မြေငှားရမ်းခကို ကင်းလွတ်ခွင့်ပြုမည်။ အငှားချထားသည့်မြေနေရာပေါ်ရှိ အဆောက်အအုံများ ဖျက်သိမ်းရန်နှင့် အကြိုအင်ဂျင်နီယာ လုပ်ငန်းများဆောင်ရွက်ရန်အတွက် စာချုပ်စတင်အကျိုးသက်ရောက်သည့် နေ့မှစ၍ (၆)လ သတ်မှတ်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလကို ထိုအဆောက်အအုံများ ဖျက်သိမ်းမည့် (၆)လ ကာလကုန်ဆုံးသည့်နေ့ရက်မှ စတင်ရေတွက်မည်ဖြစ်သည်။ မြေငှားရမ်းခကို တည်ဆောက်ရေးကာလ (၂) နှစ် နှင့် (၆)လ ပြည့်သည့် ( ) ရက်နေ့ သို့မဟုတ် အဆောက်အဦအားလုံး စတင်ဖွင့်လှစ်သည့်ရက် နှစ်ခုအနက် စောရာရက်မှစ၍ ယင်းအဆောက်အဦအတွက် မြေငှားရမ်းခကို တွက်ချက်ပေးသွင်းရမည်။ အကယ်၍ တည်ဆောက်မှုကာလထက်စောပြီး အဆောက်အဦ၏ အစိတ်အပိုင်းအချို့ကို စတင်၍ လုပ်ငန်းဆောင်ရွက်ပါက ထိုသို့ လုပ်ငန်းစတင်ဆောင်ရွက်သည့် အစိတ်အပိုင်းအတွက် ကျသင့်မြေငှားခကို ပေးသွင်းရမည်။

၅။ **ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း။** အငှားချထားခြင်းခံရသူသည် အပိုဒ်(၄)ပါမြေ (၃. ၅၁)ဧကအတွက် ငှားရမ်းခကို အောက်ပါအတိုင်း ပေးဆောင်ရမည်-

(က) မြေအသုံးချမှု ပရီမီယံကြေးအား မြေ (၁)ဧကအမေရိကန်ဒေါ်လာ (၂) သန်းနှုန်းဖြင့် မြေ (၃. ၅၁)ဧကအတွက်အမေရိကန်ဒေါ်လာ (၇. ၀၂) သန်းအားပေးသွင်းရမည်။

(ခ) အပိုဒ် ၅(က)အရ မြေအသုံးချမှု ပရီမီယံကြေးကို ပေးသွင်းရာတွင် အငှားချထားခြင်း ခံရသူမှ တပ်မတော်ပိုင်နိုင်ငံတော် ကာကွယ်ရေးတက္ကသိုလ် (ဝင်းဟောင်း) နယ်မြေ (၂)ရှိ မြေ (၁၂. ၆၀၄)ဧကအား BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်အရ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံး၊ နေပြည်တော်သို့ ပေးသွင်းထားသည့် ပရီမီယံကြေးများ အနက်မှ အငှားချထားသည့်မြေ (၃. ၅၁)ဧကအတွက် ပေးသွင်းရမည့်ငွေ အမေရိကန်ဒေါ်လာ (၇. ၀၂) သန်းအား ယခင်ကာကွယ်ရေး ဝန်ကြီးဌာနသို့ ပေးသွင်းခဲ့သည့် နှုန်းထားအတိုင်း ကျပ်ငွေဖြင့် မြန်မာ့မီးရထားသို့ ပေးသွင်းရန်နှင့် အဆိုပါပေးသွင်းရမည့် အမြေအသုံးချပရီမီယံကြေးကို အငှားချထားသူသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင်အကြောင်းကြားစာနှင့်အညီ စစ်ထောက်ချုပ်ရုံးထံမှ စာရင်းလွှဲပြောင်းရယူရန် သဘောတူပါသည်။

(ဂ) နှစ်စဉ်မြေငှားရမ်းခကို (၁)စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၁၅)ဒေါ်လာနှုန်းဖြင့် အောက်ဖော်ပြပါအတိုင်း ပေးသွင်းရမည်-

(၁) ငှားရမ်းခတွက်ချက်ရာတွင် အငှားချထားသည့် မြေပေါ်ရှိ အဆောက်အဦအားလုံးအတွက် အသားတင်ငှားရမ်းအသုံးပြုနိုင်သည့် ဧရိယာ (Net Lettable Area)ပေါ်တွင် တွက်ချက်ရမည်။ အသားတင်

ငှားရမ်းအသုံးပြုနိုင်သည့် ဧရိယာ(Net Lettable Area)သည်အဆောက်အဦအားလုံး၏ စုစုပေါင်း ကြမ်းခင်းဧရိယာ (ကားပါကင်ဧရိယာမပါ) Total Gross Floor Area ၏ အများဆုံး (၈၀%) သတ်မှတ်မည်ဖြစ်ပါသည်။

(၂) ဤသဘောတူစာချုပ်နောက်ဆက်တွဲ ( ) တွင်ဖော်ပြထားသည့် အငှားချထားသူ အတည်ပြု သဘောတူထားသည့်အဆောက်အဦပုံစံကို အခြေပြု၍ အဆောက်အဦအားလုံးအတွက် စုစုပေါင်း ကြမ်းခင်း ဧရိယာမည်မျှပင်ရှိစေကာမူ ငှားခရမ်းခ တွက်ချက်ပေးချေရာတွင် တွက်ချက်ရမည့် အခြေခံ အနည်းဆုံး အသားတင်ငှားရမ်းအသုံးပြုနိုင်မည့်ဧရိယာ (Net Lettable Area) အား (၄၆,၄၆၈) စတုရန်းမီတာ သတ်မှတ်မည်ဖြစ်ပါသည်။

(၃) အပိုဒ်၅(ဂ)အပိုဒ်ခွဲ (၂)တွင်မည်သို့ပင်ဆိုစေကာမူ အဆောက်အဦဆောက်လုပ်ရာတွင် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှ နောက်ဆုံးအတည်ပြု ခွင့်ပြုမည့် အဆောက်အဦများ၏ ပုံစံနှင့် ယင်း အဆောက်အဦအားလုံးပေါ်တွင် ဖြစ်ပေါ်လာမည့် စုစုပေါင်း (Net Lettable Area) အား အတည်ပြု၍ ငှားရမ်းခပေးချေရန် နှစ်ဦးနှစ်ဖက် သဘောတူကြပါသည်။

(၄) အသားတင်ငှားရမ်းအသုံးပြုနိုင်သည့်ဧရိယာတွင် ကားရပ်နားရန်နေရာများ၊ သန့်စင်ခန်း၊ လျှောက်လမ်း၊ လေှကားနေရာများစသည့် အများအသုံးပြုသည့်နေရာများ မပါဝင်ပါ။

(၅) အပိုဒ် ၅ (ဂ) အပိုဒ်ခွဲ (၄) တွင်သတ်မှတ်ထားသည့် အသားတင်ငှားရမ်းအသုံးပြုနိုင်သည့်ဧရိယာတွင် မပါဝင်သောနေရာများတွင် အငှားချထားခြင်းခံရသူမှ နောင်မည်သည့်အချိန်တွင်မဆို အသားတင်ငှားရမ်းအသုံးပြုနိုင်သည့်ဧရိယာတွင် ပါဝင်လာမည်ဆိုပါက ထိုပါဝင်လာမည့် ဧရိယာများအပေါ် အငှားချထားသူသို့ ဤသဘောတူစာချုပ်ပါငှားရမ်းခနှုန်းထားအတိုင်း ငှားရမ်းခတွက်ချက်ပေးချေရန် သဘောတူပါသည်။

(ဃ) အထက်အပိုဒ်(ဂ)အရသတ်မှတ်ထားသော နှစ်စဉ်ငှားရမ်းခများကို ပေးသွင်းရာတွင် အမေရိကန်ဒေါ်လာဖြင့်လည်းကောင်း၊ (သို့မဟုတ်) ငွေပေးသွင်းသည့် အချိန်တွင် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှသတ်မှတ်သည့် အမေရိကန်ဒေါ်လာနှင့် ညီမျှသော မြန်မာကျပ်ငွေနှုန်းထားဖြင့်လည်းကောင်း၊ (၁)နှစ်လျှင် တစ်ကြိမ် ကြိုတင် ပေးသွင်းရမည်။

(င) ငှားရမ်းခများကိုမြန်မာ့မီးရထား ဘဏ္ဍာရေးဌာနသို့ အချိန်စေ့ရောက်ပြီးသည့်နေ့မှစ၍ ရက်ပေါင်း (၃၀) အတွင်း ပေးသွင်းရမည်။

(စ) နှစ်စဉ်ငှားရမ်းခကို အထက်အပိုဒ်(င)ပါ သဘောတူညီချက်အတိုင်း အချိန်မှီပေးချေခြင်း မပြုပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့်ငွေ၏ (၀. ၀၅%) (ဒသမသုညငါးရာခိုင်နှုန်း)နှင့် ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဆ) အငှားချထားခြင်းခံရသူသည် အငှားချထားသည့်မြေနေရာပေါ်တွင် တည်ဆောက်မည့် အဆောက်အဦများ ကို အကြောင်းမဲ့ ကြန့်ကြာခြင်းမရှိစေဘဲ တည်ဆောက်ရေးကာလအတွင်းပြီးစီးအောင်ဆောင်ရွက်ရမည်။ အကယ်၍ အကြောင်းတစ်စုံတစ်ရာကြောင့် တည်ဆောက်ရေးကာလအတွင်း ပြီးစီးအောင် တည်ဆောက်နိုင်ခြင်းမရှိပါက အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ထိုသို့ကြန့်ကြာသည့်အကြောင်းအရင်းကို မြန်မာ့မီးရထားသို့ (၂)လကြိုတင်၍စာဖြင့်ရေးသား အကြောင်းကြားပြီး သဘောတူညီမှု ရယူရမည်ဖြစ်ပါသည်။သို့ရာတွင် တိုးမြှင့် တည်ဆောက်ရေး ကာလသည် ( ၆ ) လထက် မများစေရ။

(ဇ) ငှားရမ်းခကို (၅)နှစ် (ငါးနှစ်)တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%)ထက်မကျော်လွန်စေရ။

(ဈ) အငှားချထားခြင်းခံရသူသည် အဆောက်အဦးဟောင်း ဖျက်သိမ်းသော လုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို ထုတ်နှုတ်ပြီး ကျန်တန်ဖိုးကို မြန်မာ့မီးရထားကို ပြန်လည်ပေးသွင်းရမည်။

၆။ **အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် အခွင့်အရေးများ။** အငှားချထားခြင်းခံရသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) အငှားချထားခြင်းခံရသူ အဆိုပြုတင်ပြထားသည့် စာချုပ်ပါ အဆောက်အဦ အကွက်ချပုံစံ(Site Plan)အဆောက်အဦ အမျိုးအစားအလိုက်၏ အရေအတွက်နှင့် ပုံစံ (Drawing) များသည် ပဏာမ ပုံစံ (Conceptual Design)များသာဖြစ်ပါသည်။ အငှားချထားသူမှ အတည်ပြုပေးနိုင်ရန် အငှားချထားခြင်းခံရသူသည် အပြီးသတ် အဆောက်အဦအကွက်ချပုံစံ (Site Plan)၊ အဆောက်အဦ အမျိုးအစားအလိုက်၏ အရေအတွက်နှင့် ပုံစံ (Drawing) များကို ပြန်လည်တင်ပြရမည်ဖြစ်သည်။ ယင်းနောက် အငှားချထားခြင်းခံရသူသည် အငှားချထားသူ အတည်ပြုထားသည့်အတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး ပြောင်းလဲပြင်ဆင်ဆောင်ရွက်လိုပါက အငှားချထားသူထံ ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ခ) စာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရသော် လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှု အရသော်လည်းကောင်း၊ ပြည်တွင်း/ပြည်ပကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်နိုင်သည်။ ပူးပေါင်းဆောင်ရွက်ရာတွင် အငှားချထားခြင်းခံရသူသည် ၎င်းနှင့် ပူးပေါင်းဆောင်ရွက်မည့် အခြားကုမ္ပဏီများနှင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ အငှားချထားခြင်းခံရသူနှင့် အငှားချထားခြင်းခံရသူပါဝင်သည့် ၎င်းဖက်စပ်ကုမ္ပဏီတို့သည် Development Agreement များချုပ်ဆို၍ ဆောင်ရွက်နိုင်သည်။ ထိုသို့ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အငှားချထားစဉ်ကာလအတွင်း အငှားချထားသည့်မြေ၏တစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ထုခွဲရောင်းချခြင်းမပြုလုပ်ရ။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်အရ ၎င်းရရှိမည့် အခွင့်အရေးများ၊ ဆောင်ရွက်မည့်လုပ်ငန်းများနှင့် အငှားချထားသည့်မြေပေါ်ရှိအဆောက်အဦအချို့ သို့မဟုတ် အားလုံးကို ရင်းနှီးမြှုပ်နှံမှုဥပဒေများနှင့်အညီ တစ်ဆင့်အငှားချထားခြင်း(Sub-lease)၊ လွှဲအပ်ခြင်း (Assignment)စသည်တို့ကိုပြုလုပ်နိုင်သည်။

(င) ငှားရမ်းသည့် အချိန်ကာလအတွင်း မြေပေါ်တွင် တည်ဆောက်မည့် အဆောက်အဦများကို မီးအာမခံနှင့် အခြားလိုအပ်သော အာမခံများကို မြန်မာ့အာမခံဥပဒေအရ ထားရှိရန်တာဝန်ယူရမည်။

(စ) အငှားချထားခြင်း ကိစ္စနှင့် စပ်လျဉ်း၍ မြေခွန်မှအပ စည်ပင်သာယာခွန် အပါအဝင် လုပ်ငန်းဆောင်ရွက်မှုနှင့် သက်ဆိုင်သော အခွန်အခအားလုံးကို အချိန်မှန်မှန် ပေးသွင်းရမည်။

(ဆ) အငှားချထားခြင်းခံရသူက Hospital/Office/Commercial Complex/ Service Apartment နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများဆောင်ရွက်မှုဆိုင်ရာ ဝင်ငွေစာရင်းအင်းများကို စနစ်တကျထားရှိရမည်။

(ဇ) နိုင်ငံတော်မှ ချမှတ်ထားသော မူဝါဒများကို လိုက်နာရမည်။ တရားဥပဒေနှင့် ငြိစွန်းသော မည်သည့်လုပ်ငန်းရပ်များကိုမဆို လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဈ) အငှားချထားခြင်းခံရသူသည် နှစ်စဉ်အမြတ်ငွေ၏ (၀. ၅%)ကို ပြည်သူ့အကျိုးပြု အစီအစဉ်များတွင် အငှားချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် ထည့်ဝင်အသုံးပြုရမည်။

(ည) စီမံကိန်းစုစုပေါင်း ရင်းနှီးမြှုပ်နှံမှု တန်ဖိုး၏ (၀. ၂%)အား မြန်မာ့မီးရထားမှ ဖွဲ့စည်းထားသော Project Assurance Committee ၏ ဝန်ဆောင်မှုများ၏ ကုန်ကျစရိတ်အတွက် ကမ္ပဏီမှ ကော်မတီသို့ ပေးသွင်းရမည်။

၇။ **ငှားရမ်းခြင်းစတင်သည့်နေ့။** ငှားရမ်းမှုကာလစတင်သည့်နေ့သည် အငှားချထားသည့်မြေပေါ်တွင် တည်ဆောက်မည့် အဆောက်အဦများအားလုံး တည်ဆောက်ပြီးစီးသည့်နေ့ (သို့မဟုတ်) ငှားရမ်းခ စတင်ပေးသွင်းသည့်နေ့ နှစ်ခုအနက် စောသည့်ရက်မှ စတင်ရေတွက်ရမည်။

၈။ **အငှားချထားသူ၏ တာဝန်များ။** အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) အငှားချထားသူသည် ငှားရမ်းသည့် မြေခွန်ကို ပေးဆောင်ရမည်။

(ခ) အငှားချထားသူသည် [Hospital/ Office/ Commercial Complex/ Service Apartment] နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများဆောင်ရွက်ခွင့်ရရှိရေးအတွက် လိုအပ်သော ခွင့်ပြုချက်များအား အငှားချထားခြင်းခံရသူက ရရှိရေးအတွက် လိုအပ်သော ကူညီထောက်ပံ့မှုပေးရမည်။

(ဂ) အငှားချထားခြင်း ခံရသူအနေဖြင့် အငှားချထားစဉ် ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာ အသုံးပြုပိုင်ခွင့်ရှိရမည်။

(ဃ) [Hospital/ Office/ Commercial Complex/ Service Apartment နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများ ဆောင်ရွက်ရေးအတွက် ဥပဒေအရ လိုအပ်သော ခွင့်ပြုချက်များ၊ လိုင်စင်များကို သက်ဆိုင်ရာဌာနများမှ ရရှိရန် ကူညီဆောင်ရွက်ရမည်။

(င) ဆောက်လုပ်မည့် အဆောက်အဦများအတွက်ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီမှ အထပ်မြင့်ဆောက်လုပ်ခွင့်အား ကန့်သတ်ချက်ရှိလာပါက အငှားချထားသူအနေဖြင့် အဆောက်အဦများ ပြောင်းလဲဆောက်လုပ်ခြင်းကို စဉ်းစားဆောင်ရွက်ပေးရမည်။

၉။ **မြေနှင့်အဆောက်အဦလွှဲပြောင်းပေးအပ်ခြင်း။** ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း သက်တမ်းကုန်ဆုံးသည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ (၃)လအတွင်း အငှားချထားခြင်းခံရသူက အငှားချထားသည့် မြေနှင့် အဆောက်အဦများ၊ ၎င်းမြေပေါ်ရှိ အငှားချထားခြင်း ခံရသူမှ ဆောက်လုပ်

ထားသော အဆောက်အဦနှင့် ပစ္စည်းများအားလုံး မည်သည့် အဖိုးစားနားမျှ မပါရှိဘဲ အငှားချထားသူအား ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းပြုရမည်။ သို့ရာတွင် [Hospital/ Office/ Commercial Complex/ Service Apartment] နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများနှင့်မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦတွင် တပ်ဆင်ထားသည့် (Fixture) ပစ္စည်းများမှအပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

၁၀။ **စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်။** ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

၁၁။ **စာချုပ်သက်တမ်း။** ဤစာချုပ်၏ သက်တမ်းသည် ဤစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှ ငှားရမ်းခြင်း သက်တမ်းကုန်ဆုံးသည့်နေ့ ကနဦးနှစ်(၅၀) ဖြစ်သည်။ ကနဦးနှစ်(၅၀)ကုန်ဆုံးပြီးသည့်နောက် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ (သို့မဟုတ်) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ (သို့မဟုတ်) ယင်းအချိန်တွင်ရှိမည့် တည်ဆဲရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူ သည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦး သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃)လ ကြိုတင်၍ အငှားချထားသူသို့ စာဖြင့် အကြောင်းကြား တင်ပြရမည်။ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၁၂။ **အငြင်းပွားမှုဖြေရှင်းခြင်း။** ဤမြေငှားစာချုပ်၏ အငြင်းပွားမှု ပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ ညှိနှိုင်းဖြေရှင်းမရပါက မြန်မာနိုင်ငံတည်ဆဲအနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီ အဆုံးအဖြတ်ကို ခံယူရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့ဖြစ်ပါသည်။

၁၃။ **စာချုပ်ရပ်စဲခြင်း**

(က) အောက်ဖော်ပြပါ အကြောင်းအချင်းအရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင်ဤစာချုပ်ကို ရပ်စဲနိုင်သည်-

(၁) ဤစာချုပ်ပါတာဝန်များနှင့်စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဖောက်ဖျက်၍ အခြားစာချုပ်ဝင်မှ အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း (၁၂၀) အတွင်း ပြန်လည်ကုစားဆောင်ရွက်ပေးရန် ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း(၆)လ ကြာမြင့်သောကြောင့် အငှားချထားခြင်းခံရသူမှ အငှားချထားသည့်မြေပေါ်တွင် ဆက်လက်ဆောင်ရွက်လိုခြင်းမရှိတော့ကြောင်း အငှားချထားသူသို့ အကြောင်းကြား စာပေးပို့လျှင်။

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(၄) **နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။**

(ခ) ဤစာချုပ် ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဂ) ထိုသို့ စာချုပ်ရပ်စဲခြင်းအကျိုးသက်ရောက်သည့်နေ့မှ(၃)လ အတွင်းမြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦတို့ကို အပိုဒ် (၈) နှင့်အညီ အငှားချထားခြင်းခံရသူက အငှားချထားသူသို့ အဖိုးစားနားမဲ့ပြန်လည်ပေးအပ်ရမည်။

၁၄။ **ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း။** လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ သို့မဟုတ် စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူညီချက်ဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ခွင့်ပြုချက်ရမှသာလျှင် အတည်ဖြစ်စေရမည်။

၁၅။ **ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။** ဤမြေငှားစာချုပ်၏သက်တမ်းကာလအတွင်း ငှားရမ်းထားသောမြေ၏ မြေပေါ် မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကိုတွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် အငှားချထားသူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

၁၆။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ။** မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရား ဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခံခွင့်မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ယင်းဖြစ်ရပ်သည် တည်ဆောက်ရေးကာလအတွင်း ဖြစ်ပေါ်ပါက တည်ဆောက်ရေးကာလတိုးမြှင့်ပေးခြင်းနှင့် တည်ဆောက်ရေးကာလပြီးစီးသည့်အချိန်တွင် ဖြစ်ပေါ်ပါက မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၁၇။ **ဝန်ထမ်းများခန့်ထားခြင်း။** လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ အငှားချထားခြင်းခံရသူမှခန့်ထားပြီး၊ ယင်းတို့၏လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်း ချက်များနှင့်အညီခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီ

ချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံတွင်နေထိုင်စဉ် မြန်မာနိုင်ငံ၏ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် အငှား ချထားခြင်းခံရသူက တာဝန်ယူရမည်။

၁၈။ **ကင်းလွတ်ခွင့် သက်သာခွင့်များ။** မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် အငှားချထားသူမှ ကူညီဆောင်ရွက်ပေးမည်ဖြစ်သည်။

၁၉။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။** အငှားချထားခြင်းခံရသူသည် စွန့်ပစ်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရန်၊ ရေဆိုးများ သန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၂၀။ **စာပေးစာယူပြုလုပ်ရန်ကိစ္စ။** စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ(သို့မဟုတ်)အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည်-

(က) အငှားချထားသူ

မြန်မာ့မီးရထား၊

အမည် -ဦးသူရိန်ဝင်း

ရာထူး - ဦးဆောင်ညွှန်ကြားရေးမှူး

လိပ်စာ - မြန်မာ့မီးရထား၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ဖုန်းနံပါတ် - ၀၆၇-၇၇၀၀၁

(ခ) အငှားချထားခြင်းခံရသူ

Shwe Taung Development Co., Ltd.

အမည် - ဦးအောင်ဇော်နိုင်

ရာထူး - အုပ်ချုပ်မှုဒါရိုက်တာ

လိပ်စာ-အမှတ်(၅၈၄)(၅-လွှာ)၊(၇)လမ်းနှင့်ကမ်းနားလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂၀။ **မြေသို့ပြန်လည်ဝင်ရောက်ခွင့်။** အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှု မရှိပါက အငှားချထားသူသည် အငှားချထားသည့်မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထား ခြင်းခံရသူထံမှထိုသို့ အငှားချထားသည့်မြေသို့ ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူသည့်နေ့အထိ ရရန်ရှိသောငှားရမ်းခ (သို့မဟုတ်) ပျက်စီး ဆုံးရှုံးမှုအတွက်လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၂။ **အထွေထွေ။** ဤမြေငှားစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင် စာရွက်စာတမ်း၊ Hospital/ Office/ Commercial Complex/ Service Apartment နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများများ၏အဆောက်အဦပုံစံများ၊ အထောက်အထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၂၃။ **လက်မှတ်ရေးထိုးခြင်း။** အထက်စာချုပ်ပါအချက်အလက်များကို အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သေချာစွာ ဖတ်ရှုပြီး နှစ်ဦးနှစ်ဖက်သဘောတူလက်ခံပါသဖြင့် (        ) ခုနှစ်၊ (        ) လ၊ (   )ရက်နေ့၌ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူ တို့က လက်မှတ်ရေးထိုးကြပါသည်။



အငှားချထားသူ (ကိုယ်စား)
ဦးသူရိန်ဝင်း

အငှားချထားခြင်းခံရသူ (ကိုယ်စား)
အငှားချထားခြင်းခံရသူShwe Taung Development Co., Ltd.အတွက် ဦးအောင်ဇော်နိုင်မှ လက်မှတ်ရေးထိုးပါသည်။

လက်မှတ် ---------------------
အဆင့်/အမည်
ပြန်ထမ်းဝင်အမှတ်
ရာထူး
လိပ်စာ

လက်မှတ် ---------------------
အမည် ဦးအောင်ဇော်နိုင်
မှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၂၅၇၃၈
ရာထူး အုပ်ချုပ်မှုဒါရိုက်တာ
လိပ်စာ ရန်ကုန်တိုင်းဒေသကြီး၊လမ်းမတော်မြို့နယ်၊ (၇)လမ်းနှင့်ကမ်းနားလမ်းထောင့်အမှတ်(၅၈၄)(၅) လွှာ။

## အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | --------------------- | လက်မှတ် | ---------------------- |
| အဆင့်/အမည် | | အမည် | ဦးအောင်သန်း |
| ပြန်ထမ်းဝင်အမှတ် | | မှတ်ပုံတင်အမှတ် | ၁၂/ပဇတ(နိုင်)၀၂၂၇၅၀ |
| ရာထူး | | ရာထူး | ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ |
| လိပ်စာ | | လိပ်စာ | ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ကမ်းနားလမ်း၊ အလုံတာ၀ါ။ |

## ၁.၀ စီမံကိန်းအာမခံကော်မတီ

၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ (၂၂) ရက်စွဲပါ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား၏ စာကို အကိုးအကားပြုလျှက် စီမံကိန်းအာမခံ ကော်မတီကို ပူးတွဲဖော်ပြပါ လူပုဂ္ဂိုလ် များဖြင့် ပါဝင် ဖွဲ့စည်းခဲ့ပါသည်။

## ၂.၀ ရည်ရွယ်ချက်

စီမံကိန်းအာမခံကော်မတီသည် (မြန်မာ့မီးရထားအောက်မှ/၏ခွင့်ပြုချက် နှင့် အညီ) လူသားအရင်းအမြစ်၊ စီမံကိန်းစီမံခန့်ခွဲမှု၊ စီမံကိန်း အကောင်အထည် ဖော်ဆောင်ရွက်မှု၊ အရည်အသွေး၊ သဘာဝပတ်ဝန်းကျင်၊ ကျန်းမာရေးနှင့် ဘေးကင်းလုံခြုံမှု၊ သဘာဝပတ်ဝန်းကျင်ထိခိုက်မှု နှင့်စပ်လျဉ်းသည့် အကဲဖြတ်မှု၊ လူမှုရေးထိခိုက်မှု နှင့်စပ်လျဉ်းသည့် အကဲဖြတ်မှု၊ ကျန်းမာရေးထိခိုက်မှု နှင့်စပ်လျဉ်းသည့် အကဲဖြတ်မှု တို့နှင့် ပတ်သက်သည့် အတိုင်ပင်ခံပုဂ္ဂိုလ်များ၊ စာချုပ် ချုပ်ဆိုထားကြသူများ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သူများ၊ ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်သူများတို့ မှ ထမ်းဆောင်ကြသည့် (ဆောင်ရွက်ကြသည့်) လုပ်ငန်းများအပေါ် စီမံကိန်းများ အကောင်အထည်ဖော် ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ အကဲဖြတ် စောင့်ကြည့်စစ်ဆေးရန် ဖြစ်သည်။

## ၃.၀ အခန်းကဏ္ဍ

စီမံကိန်းအာမခံ ကော်မတီသည် (မြန်မာ့မီးရထားအောက်မှ/၏ခွင့်ပြုချက် နှင့်အညီ) စီမံကိန်းများနှင့်စပ်လျဉ်း၍ စီမံကိန်း စီမံခန့်ခွဲမှုတလျှောက်လုံးကို အကဲဖြတ် စောင့်ကြည့် စစ်ဆေးရန် တာဝန်ရှိသည်။ ဤသို့ တာဝန်ရှိရခြင်းမှာ ယင်းစီမံကိန်းများ မှ သဘောတူညီပြီးသော/ သဘောတူခွင့်ပြုပြီးသော စီမံကိန်းများ၏ ရလာဒ်များ ထုတ်ပေးရန် ကျန်ရှိသည်များအား သက်ဆိုင်ရာ စီမံကိန်း ရည်ရွယ်ချက်များနှင့် ကိုက်ညီစေရန် အတွက် လိုအပ်ချက်များအား သေချာစေရန် ဖြစ်သည်။

စီမံကိန်းအာမခံ ကော်မတီသည် စီမံကိန်းများအား သီးသန့်စောင့်ကြည့် အကဲဖြတ်သော အဖွဲ့အစည်းအဖြစ် သတ်မှတ်ထားသော်လည်း စီမံကိန်းနှင့်

စပ်လျဉ်းသည့် လူပုဂ္ဂိုလ် (သို့) အဖွဲ့အစည်း (မြန်မာ့မီးရထား) နှင့် ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်သူများ၏ လိုအပ်ချက်များ/အခက်အခဲများကို ကူညီဖြေရှင်း ဆောင်ရွက် ပေးနိုင်ရန် ဖွဲ့စည်းထားသည့် ကော်မတီလည်း ဖြစ်ပါသည်။

၄.၀ တာဝန်ဝတ္တရားများ

စီမံကိန်းအာမခံ ကော်မတီသည် မြန်မာ့မီးရထား၏ လုပ်ငန်းစီမံကိန်းများ နှင့်စပ်လျဉ်း၍ လူပုဂ္ဂိုလ် (သို့) အဖွဲ့အစည်း (မြန်မာ့မီးရထား) အတွက် တာဝန်ရှိသည်။ ကော်မတီ၏ လုပ်ငန်းဆောင်ရွက်ချက် များအား စီမံကိန်း စီမံခန့်ခွဲမှုနှင့် စီမံကိန်းအကောင်အထည်ဖော် ဆောင်ရွက်မှု အဖွဲ့မှ မဟုတ်ဘဲ အခြား လွတ်လပ်သည့် လူပုဂ္ဂိုလ်တစ်ဦး (သို့မဟုတ်) တစ်ဦးထက်ပိုသူများ [ဥပမာ... အရည်အသွေးပြည့်မီသည့် စီမံခန့်ခွဲသူများ (သို့မဟုတ်) အာမခံစီမံခန့်ခွဲသူများ] အား လွှဲပြောင်း တာဝန်ပေးအပ်နိုင်သည်။ ဤ လုပ်ငန်းဆောင်ရွက်ချက်များ ဆိုသည်တွင်...

(၁) အကဲဖြတ်စောင့်ကြည့်စစ်ဆေးခြင်း၊ ထိန်းချုပ်ခြင်း၊ ပြန်လည်သုံးသပ်ခြင်းများ (သို့မဟုတ်) စာရင်းစစ်ဆေးခြင်းတို့တွင် ဆောင်ရွက်ချက်များ နှင့်စပ်လျဉ်း၍ သေချာစေရန်၊

(၂) အသုံးပြုသူ၏ လိုအပ်ချက်များနှင့် မျှော်မှန်းချက်များပြည့်မီစေမှု (သို့မဟုတ်) စီမံခန့်ခွဲနိုင်မှုတို့အား စစ်ဆေးရန်၊

(၃) ဘေးအန္တရာယ်ရှိမှု များအား ထိန်းချုပ်နိုင်မှု နှင့်စပ်လျဉ်း၍ စစ်ဆေးရန်၊

(၄) အစီအမံ/အစီအစဉ်များ လက်တွေ့ အကောင်အထည်ဖော် ဆောင်ရွက် မှုနှင့် တိုးတက်မှုတို့အား စစ်ဆေးရန်၊

(၅) ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်သူ၏ အရင်းအမြစ်များကို အကဲဖြတ် စောင့်ကြည့်စစ်ဆေးရန် နှင့် လူမှန် နေရာမှန် ဟုတ် / မဟုတ် စစ်ဆေးနိုင်ရန်၊

(၆) စီမံကိန်းထုတ်လုပ်မှုတွင် သဘောတူညီခဲ့သည့် အရည်အသွေး၊ ကုန်ကျစရိတ်၊ အချိန်မှီပြီးစီးမှု တို့နှင့်စပ်လျဉ်း၍ သေချာစေရန်၊

(၇) ကျန်းမာရေး၊ ဘေးအန္တရာယ်ကင်းရှင်းလုံခြုံမှုနှင့် သဘာဝပတ်ဝန်းကျင်တို့အတွက် အကဲဖြတ်စောင့်ကြည့် စစ်ဆေးရန်၊

(၈) လုပ်ငန်းစီမံကိန်း နယ်ပယ်/ဧရိယာသည် သတိမပြုမိဘဲကြီးထွားလာမှု (နယ်ပယ်မသိမသာချဲ့ထွင်မှု) ကို စစ်ဆေးရန်၊

(၉) ဥပဒေ၊ လုပ်ထုံးလုပ်နည်း (သို့မဟုတ်) စာချုပ်စာတမ်းများ အရလိုအပ်ချက်များ နှင့်ကိုက်ညီစေရန် အတွက် စစ်ဆေးရန်၊

(၁၀) စီမံကိန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ပုဂ္ဂိုလ်များ၏ စိတ်ကျေနပ်မှုရှိစေရန် လိုအပ်ချက်များအား စစ်ဆေးရန်၊

(၁၁) စာချုပ်စာတမ်းများနှင့် စီမံကိန်းစာရွက်စာတမ်းများ၏ မှန်ကန်မှုနှင့် သက်ဆိုင်မှုတို့အား ပြန်လည်သုံးသပ်ရန် တို့ပါဝင်သည်။

၅.၀ အကဲဖြတ်စောင့်ကြည့်စစ်ဆေးခြင်းနှင့် ထိန်းချုပ်ခြင်း

အကဲဖြတ် စောင့်ကြည့်စစ်ဆေးခြင်းနှင့် ထိန်းချုပ်ခြင်းအဆင့်တွင် စီမံကိန်းဆောင်ရွက်မှုနှင့်တိုးတက်မှုတို့အတွက် စစ်ဆေးရန်၊ ပြန်လည် သုံးသပ်ရန် နှင့် အစီအစဉ်တကျ စီစဉ်ရန်/စုစည်းရန် လိုအပ်သော လုပ်ငန်းများ ဆောင်ရွက်ခြင်း၊ အစီအမံ ပြောင်းလဲရန်လိုအပ်သော နယ်ပယ်များ သတ်မှတ်ခြင်းများ နှင့် သက်ဆိုင်ရာ ပြောင်းလဲမှုများအား စတင်ခြင်းတို့ ပါဝင်သည်။ ဤအဆင့် ရှိခြင်း၏ အဓိကအကျိုးကျေးဇူးမှာ စီမံကိန်းဆောင်ရွက်မှုအရည်အသွေး ပြည့်မှီစေရန် နှင့် စီမံကိန်းစီမံခန့်ခွဲမှု အစီအစဉ်၏ အပြောင်းအလဲများအား သင့်လျော်သောအစီအမံ၊ (သို့မဟုတ်) ခွင်းချက်ပြုထားသည့် အခြေအနေများ၏ သေချာစေမှုကို ပုံမှန်ကြားကာလများတွင် စစ်ဆေးခွဲခြမ်းစိတ်ဖြာ သုံးသပ်နိုင်ရန်ဖြစ်သည်။

အကဲဖြတ်စောင့်ကြည့် စစ်ဆေးခြင်းနှင့် ထိန်းချုပ်ခြင်းတွင် …………

- ပြောင်းလဲမှုများအား ထိန်းချုပ်ခြင်းနှင့် ဖြစ်နိုင်စွမ်းရှိသည့် အခက်အခဲ ပြဿနာများကို မျှော်မှန်းသုံးသပ်ရာတွင် ကာကွယ်ခြင်း (သို့မဟုတ်) ပြုပြင်ခြင်း လုပ်ငန်း တို့အား ထောက်ခံပေးခြင်း၊

- စီမံကိန်း စီမံခန့်ခွဲမှု အစီအစဉ်နှင့် (၆) ဆန့်ကျင်သည့် စီမံကိန်းလုပ်ငန်းများအား အကဲဖြတ် စစ်ဆေးခြင်းနှင့် စီမံကိန်း ဆောင်ရွက်မှုအခြေခံ အတိုင်းအတာအား အကဲဖြတ် စစ်ဆေးခြင်း တို့လည်း ပါဝင်ပါသည်။

ဤစဉ်ဆက်မပြတ် စောင့်ကြည့်အကဲဖြတ် စစ်ဆေးခြင်းသည် စီမံကိန်းအဖွဲ့၏ စီမံကိန်း ကောင်းမွန်မှုနှင့် ထပ်မံစောင့်ကြည့်ရန် လိုအပ်သည့် နယ်ပယ်များ သတ်မှတ်ခြင်း တို့အတွက် ထဲထဲဝင်ဝင် အထောက်အပံ့ဖြစ်စေသည်။

၅.၁ စီမံကိန်းအချက်အလက်၊ သတင်း နှင့် အစီရင်ခံမှု

အချက်အလက်၊ သတင်း နှင့် အစီရင်ခံစာများကို စီမံကိန်း အောင်မြင်စွာ ပြီးစီးနိုင်ရေးအတွက် စီမံကိန်းအား စီမံခန့်ခွဲရန်နှင့် အကဲဖြတ်စစ်ဆေးရန် အသုံးပြုမည်။ ပုံမှန်စာရင်းစစ်ဆေးခြင်းများ နှင့် နည်းစနစ်များအား စစ်ဆေးခြင်းများကို ထုတ်လုပ်သော အချက်အလက်မှန်ကန် သေချာစေရန် နှင့် မည်သည့်ကိစ္စရပ်မဆို အချိန်ကာလအားလျော်စွာ မှန်ကန်သော အနေအထား ဖော်ပြထားမှုနှင့် လိုအပ်ပါက စီမံကိန်း၏ နောက်ဆုံးအခြေအနေကို ခန့်မှန်းတွက်ချက်ရာတို့တွင် သေချာစေရန် ဆောင်ရွက်မည်။

စီမံကိန်း အကောင်အထည်ဖော်မှု ကာလအတွင်း စီမံကိန်းအချက်အလက်များကို ဆက်လက်စုဆောင်း၍ ခွဲခြမ်းစိတ်ဖြာ သုံးသပ်မည်။ စုဆောင်းထားသည့် အချက်အလက်များအား အမျိုးမျိုးသော အကဲဖြတ်စစ်ဆေးခြင်း နှင့် လုပ်ငန်းစဉ်များအား ထိန်းချုပ်ခြင်း ကိစ္စရပ်များ ဆောင်ရွက်စဉ် ကာလအတွင်း စီမံကိန်း သတင်းအချက်အလက် ဖြစ်ပေါ်စေရန် အသွင်ပြောင်းလဲခြင်း၊ ပေါင်းစပ်ခြင်းတို့ကို ဆက်စပ်စဉ်းစားရမည့် အကြောင်းအရာ အခြေအနေ ပေါ်မူတည်၍ ခွဲခြမ်းစိတ်ဖြာ သုံးသပ်မည်။

၅.၂ အကဲဖြတ်စစ်ဆေးခြင်းနှင့် လုပ်ငန်းစဉ်များအား ထိန်းချုပ်ခြင်း

လုပ်ငန်းစဉ်များ၏ စီမံကိန်း စီမံခန့်ခွဲမှုအစီအစဉ်တွင် သတ်မှတ်ထားသည့် လုပ်ငန်းများဆောင်ရွက်ခြင်း၊ ဦးဆောင်ဦးရွက်ပြုခြင်း နှင့် စီမံကိန်း

ရည်မှန်းချက်များ အောင်မြင်စေရန် သဘောတူ ခွင့်ပြုထားသည့် အပြောင်းအလဲများကို အကောင်အထည်ဖော် ဆောင်ရွက်ခြင်းတို့ ပါဝင်သည်။

စီစဉ်ခြင်း၊ ထိန်းချုပ်ခြင်း နှင့် စီမံကိန်း စီမံခန့်ခွဲမှု လုပ်ငန်းစဉ်များအား ထိရောက်စွာ ဆောင်ရွက်မှုကို အတည်ပြုရန်၊

၅.၃ အကဲဖြတ်စစ်ဆေးခြင်း နှင့် စီမံကိန်းလုပ်ငန်းထိန်းချုပ်ခြင်း

စီမံကိန်း စီမံခန့်ခွဲမှု အစီအစဉ်တွင် သတ်မှတ်ထားသည့် လုပ်ငန်းဆောင်ရွက်မှု ရည်မှန်းချက်များ နှင့်စပ်လျဉ်း၍ ခြေရာကောက်ခြင်း၊ ပြန်လည်သုံးသပ်ခြင်း နှင့် စီမံကိန်းတိုးတက်မှု အစီရင်ခံတင်ပြခြင်း။ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးကျေးဇူးသည် စီမံကိန်း၏ လက်ရှိအခြေအနေ၊ တာဝန်ယူ ဆောင်ရွက်ခဲ့မှုများ၊ ငွေရေးကြေးရေး၊ လုပ်ငန်းစဉ်အစီအစဉ် နှင့် ခန့်မှန်းနယ်ပယ် ဧရိယာတို့ကို အစုရှယ်ယာပါဝင်သူများအား နားလည်စေရန် အခွင့်အရေးပေးခြင်း ဖြစ်သည်။

၅.၄ ပြောင်းလဲမှုအား ပူးပေါင်းထိန်းချုပ် ဆောင်ရွက်ခြင်း

ပြောင်းလဲရန်တောင်းဆိုမှုများ အားလုံးကို ပြန်လည်သုံးသပ်ခြင်း၊ ပြောင်းလဲမှုများ နှင့် အပြောင်းအလဲများကို ထုတ်လုပ် ပေးပို့နိုင်ရန် စီမံခန့်ခွဲခြင်း၊ စီမံကိန်း စာရွက်စာတမ်းများ၊ စီမံကိန်း စီမံခန့်ခွဲမှု အစီအစဉ်တို့အား သဘောတူခွင့်ပြုခြင်း၊ နှင့် ယင်းတို့၏အနေအထားကို ဆက်သွယ်ပြောဆိုခြင်း။

ယင်းသို့ဆောင်ရွက်ရာတွင် ပြောင်းလဲမှုများအတွက် တောင်းဆိုခြင်းများအားလုံး (သို့မဟုတ်) စီမံကိန်းစာရွက်စာတမ်းများ၊ ထုတ်လုပ်ပေးပို့နိုင်မှုများ၊ အခြေခံစည်းမျဉ်းများ၊ (သို့မဟုတ်) စီမံကိန်း စီမံခန့်ခွဲမှု အစီအစဉ်တို့အား ပြုပြင်မွမ်းမံခြင်း နှင့် အပြောင်းအလဲများအား သဘောတူခွင့်ပြုခြင်းများ (သို့မဟုတ်) ပယ်ချခြင်းများအား ပြန်လည်သုံးသပ်သည်၊ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးရလာဒ်သည် စီမံကိန်း ရည်မှန်းချက်များ (သို့မဟုတ်) အစီအစဉ်များ အပေါ်တွင် စဉ်းစားဆင်ခြင်သုံးသပ်ခြင်းမရှိဘဲ အပြောင်းအလဲပြုလုပ်မှုများမှ မကြာခဏ ပေါ်ပေါက်လာသည့် စီမံကိန်း ဘေးအန္တရာယ်ရှိမှုအား လျှော့ချစဉ်တွင်

စီမံကိန်းအတွင်း စာရွက်စာတမ်း ပြောင်းလဲမှုကို ပူးပေါင်းမှုပုံစံတစ်ခု အဖြစ် စဉ်းစားနိုင်ရန် ခွင့်ပြုသည်။

၅.၅ စီမံကိန်း ဧရိယာနယ်ပယ် မှန်ကန်အတည်ဖြစ်မှု

ပြီးစီးခဲ့သည့်စီမံကိန်း ထုတ်လုပ်နိုင်မှုများအား လက်ခံမှုကို တရားဝင်ဖြစ်စေခြင်း။ ဤ လုပ်ငန်းစဉ်ရှိခြင်း၏ အဓိက အကျိုးရလာဒ်သည် လုပ်ငန်းဖြစ်စဉ် လက်ခံမှုနှင့် နောက်ဆုံးထုတ်လုပ်မှု၊ ဝန်ဆောင်မှု၊ (သို့မဟုတ်) ထုတ်လုပ်မှုတစ်ခုစီ၏ မှန်ကန်မှု အပေါ်အခြေခံ၍ လက်ခံသည့် ရလာဒ်တို့ ပြောင်းလဲမှုကို တိုးပွားစေသည့် ရည်မှန်းချက် ပြည့်မြောက်စေသည်။

၅.၆ ဧရိယာနယ်ပယ် ထိန်းချုပ်မှု

စီမံကိန်းနယ်ပယ် နှင့်စပ်လျဉ်း၍ အချိန်ကာလ၊ ကုန်ကျစရိတ် နှင့် အရင်းအမြစ်များအား ချိန်ညှိမှု/ချိန်ဆမှု မရှိဘဲ အထိန်းအချုပ်မဲ့ ချဲ့ထွင်ခြင်းကို ဧရိယာနယ်ပယ်ချဲ့ထွင်မှု အဖြစ် သတ်မှတ်သည်။ အပြောင်းအလဲဖြစ်မှုသည် မရှောင်မလွှဲနိုင်သည့် ကိစ္စရပ်ဖြစ်သည့် အတွက် ပြောင်းလဲမှုထိန်းချုပ်သည့် လုပ်ငန်းစဉ် ပူးပေါင်း ဆောင်ရွက်ခြင်းသည် စီမံကိန်းတိုင်းအတွက် မဖြစ်မနေ လုပ်ဆောင်ရမည်။

၅.၇ အစီအစဉ် ထိန်းချုပ်မှု

အစီအစဉ်အောင်မြင်နိုင်စေရန် စီမံကိန်းတိုးတက်မှုနှင့် အခြေခံစာရင်းဇယား အစီအစဉ်ပြောင်းလဲမှုများ စီမံခန့်ခွဲခြင်းတို့တွင် ပြုပြင်မွမ်းမံနိုင်ရန် စီမံကိန်း လုပ်ငန်းများ၏ အခြေအနေကို အကဲဖြတ် စစ်ဆေးဆောင်ရွက်ခြင်းဖြစ်သည်။ ဤအဆင့်ရှိခြင်း၏ အဓိက အကျိုးကျေးဇူးသည် စီမံကိန်းအစီအစဉ်မှ သွေဖယ်သွားမှုကို သိရှိရန် နည်းစနစ်များ/နည်းလမ်းများ နှင့် စွန့်စားမှု/ဘေးအန္တရာယ် လျှော့ချစေမည့် ပြုပြင်/မှန်ကန်ခြင်းနှင့် အကာ အကွယ်ပေးခြင်း တို့တွင် တာဝန်ယူမှု လုပ်ငန်းများရှိစေရန် အထောက်အပံ့ ပေးသည်။

## ၅.၈ စရိတ်စကများ ထိန်းချုပ်မှု

စီမံကိန်း ကုန်ကျစရိတ်/ စရိတ်စကများကို အချိန်နှင့်အမျှ ပြုပြင်ရန် စီမံကိန်းအခြေအနေကို အကဲဖြတ်စစ်ဆေး ဆောင်ရွက်ခြင်းနှင့် ပြောင်းလဲမှုများကို အနည်းဆုံးစရိတ်စက ဖြစ်စေရန် စီမံခန့်ခွဲခြင်းဖြစ်သည်။ ဤ အဆင့်ရှိရခြင်း၏ အဓိက အကျိုးရလာဒ်သည် စီမံကိန်းအစီအစဉ်မှ သွေဖယ်သွားမှုကို သိရှိပြီး ပြုပြင်ခြင်း/မှန်ကန်ခြင်း နှင့် စွန့်စားမှု/ဘေးအန္တရာယ် လျော့ချစေခြင်းတို့ကို ဆောင်ရွက်မည့် တာဝန်ယူမှု လုပ်ငန်းများ ရှိစေရန် အထောက်အပံ့ပေးသည်။

## ၅.၉ အရည်အသွေး ထိန်းချုပ်မှု

ဆောင်ရွက်မှုကို အကဲဖြတ်ရန်နှင့် လိုအပ်သော ပြောင်းလဲမှုများကို ထောက်ခံရန် လုပ်ငန်းအရည်အသွေး ဆောင်ရွက်မှု ရလာဒ်များကို အကဲဖြတ်စစ်ဆေးခြင်းနှင့် မှတ်တမ်းပြုစုခြင်းဖြစ်သည်။ အရည်အသွေးမဟာဗျူဟာ ဖွံ့ဖြိုးတိုးတက်မှုသည် ပုံစံထုတ်လုပ်သူများအတွက် ကန့်သတ်ချက်မူဘောင်နှင့် စာချုပ်ချုပ်ဆိုသူများ ခန့်အပ်မှု အတွက် မူဘောင်များချမှတ်ပြီး အရည်အသွေး အစီအမံကို ဆောင်ရွက်ရမည်။ ယင်းသို့ အရည်အသွေး ထိန်းချုပ်မှုသည် နောက်တွင် စာချုပ်ချုပ်ဆိုသူများ၊ ထပ်ဆင့် စာချုပ်ချုပ်ဆိုကြသူများ နှင့် အရည်အသွေး အစီအမံတွင် သဘောတူညီမှု ဘောင်အတွင်းမှ လည်ပတ်လုပ်ကိုင် ဆောင်ရွက်နေသည့် အထောက်အပံ့ပေးသူများ ၏ တာဝန်များ ဖြစ်လာမည်ဖြစ်သည်။ အစီအမံ/ အစီအစဉ်ကိုယ်တိုင် သည်လည်းပဲ အနှောင်အဖွဲ့မပါသည့် လွတ်လပ်သော အရည်အသွေး စစ်ဆေးခြင်း နှင့် အခါအားလျော်စွာ စစ်ဆေးကြည့်ရှုခြင်း ပုံစံမျိုး တည်ထောင်ဆောင်ရွက်ရမည်ဖြစ်ပြီး၊ အလုပ်များပြီးဆုံးမှု သဘောတူ လက်မှတ် ရေးထိုးခြင်း လုပ်နည်းစနစ်/လုပ်ထုံးလုပ်နည်းများကို စီမံရမည်။ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးရလာဒ်များတွင် ...

- ညံ့ဖျင်းသော လုပ်ငန်းများ ဖြစ်စေသည့်အကြောင်း (သို့မဟုတ်) ထုတ်လုပ်မှုအရည်အသွေးကို ခွဲခြားဖော်ထုတ်သတ်မှတ်ခြင်း နှင့်

ယင်းတို့ကို ပယ်ဖျက်ရန်/ဖယ်ထုတ်ရန် ထောက်ခံခြင်း နှင့်/သို့မဟုတ် အရေးယူဆောင်ရွက်ခြင်း နှင့်

- နောက်ဆုံးလက်ခံမှုအတွက် လိုအပ်သော အရေးပါသည့် အဓိက အစုရှယ်ရာရှင်များက သတ်မှတ်သည့် လိုအပ်ချက်များနှင့် ကိုက်ညီစေမည့် စီမံကိန်းထုတ်လုပ်နိုင်မှုများနှင့် အလုပ်အကိုင်တို့ ကျိုးကြောင်းဆီလျော် ညီညွတ်ကြောင်း အထောက်အထားပြခြင်း တို့ ပါဝင်သည်။

၅.၁၀ ဆက်သွယ်ခြင်းများ/ဆက်ဆံပြောဆိုခြင်းများကို ထိန်းချုပ်ခြင်း

စီမံကိန်းတစ်ခုလုံး၏ သက်တမ်းအတွင်း လည်ပတ်မှု တစ်ခုလုံး/တစ်လျောက်လုံးတွင် စီမံကိန်း အစုရှယ်ယာရှင်များ၏လိုအပ်သည့် သတင်းအချက်အလက်များအဖြစ် ကိုက်ညီစေရန်/သေချာစေရန် အကဲဖြတ် စစ်ဆေး ဆောင်ရွက်ခြင်းနှင့် ဆက်သွယ်ခြင်းများ/ ဆက်ဆံပြောဆိုခြင်း များကို ထိန်းချုပ်ခြင်းဖြစ်သည်။ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးကျေးဇူးသည် အချိန်ကာလအားလျော်စွာ ပါဝင်ဆောင်ရွက်သူများ၏ ဆက်သွယ်မှုအားလုံးတွင် ရှိသည့် ယုံကြည်စိတ်ချရသော သတင်းအချက် အလက်များကို သေချာစေရန်ဖြစ်သည်။

၅.၁၁ ဘေးအန္တရာယ်ဆိုင်ရာများ ထိန်းချုပ်မှု

စီမံကိန်းဆောင်ရွက်စဉ် တစ်လျောက်လုံးတွင် ဘေးအန္တရာယ်တုံ့ပြန်မှု အစီအစဉ်များ အကောင်အထည်ဖော် ဆောင်ရွက်ခြင်း၊ သတ်မှတ်ထားသည့် ဘေးအန္တရာယ်များအား ခြေရာကောက်ခြင်း/ လမ်းကြောင်းလိုက်ခြင်း၊ ကျန်ရှိနေသည့် ဘေးအန္တရာယ်များအား အကဲဖြတ်စစ်ဆေးခြင်း၊ နောင်တွင် ကျရောက်နိုင်မည့် ဘေးအန္တရာယ် အသစ်များ ဖော်ထုတ်သတ်မှတ်ခြင်း၊ ထိရောက်မှု ရှိသော ဘေးအန္တရာယ်လုပ်ငန်းစဉ်ကို ဆန်းစစ်ခြင်းတို့ ဆောင်ရွက်မည်။ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးကျေးဇူးသည် စီမံကိန်းလုပ်ငန်းစဉ် ဆောင်ရွက်မှု တစ်လျောက်လုံးတွင် ဘေးအန္တရာယ် တုံ့ပြန်မှုများကို အကောင်းဆုံး ဆက်လက် ဆောင်ရွက်နိုင်ရန် ဘေးအန္တရာယ်

ချည်းကပ်မှု နှင့်စပ်လျဉ်း၍ ထိထိ ရောက်ရောက်/ထဲထဲဝင်ဝင် တိုးတက်စေရန်ဖြစ်သည်။

- သဘာဝပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ချက်/လူမှုရေးထိခိုက်မှု ဆန်းစစ်ချက် နှင့် စီမံခန့်ခွဲမှု အစီအစဉ်ကို ပြန်လည်သုံးသပ်ရန်၊
- ဘေးအန္တရာယ်များနှင့် ခြိမ်းခြောက်မှုများကို ဖော်ထုတ်သတ်မှတ်ရန် အစုရှယ်ယာပါဝင်သူများနှင့် အလုပ်ရုံဆွေးနွေးပွဲများ နှင့် အစည်းအဝေးပွဲများ ကျင်းပခြင်း၊
- ဘေးအန္တရာယ်စီမံခန့်ခွဲမှု အစီအစဉ်ဖွံ့ဖြိုးတိုးတက်မှု သေချာစေရန် နှင့် ဖော်ထုတ်သတ်မှတ်ထားသည့် ဘေးအန္တရာယ်များကို လျှော့ပါးစေခြင်းတွင် အသုံးပြုရန်၊

၅.၁၂ ပစ္စည်းဝယ်ယူမှုများကို ထိန်းချုပ်ခြင်း

ပစ္စည်းဝယ်ယူမှုနှင့် စပ်ဆိုင်သည့်ကိစ္စရပ်များကို စီမံခန့်ခွဲခြင်း၊ စာချုပ်စာတမ်းအရ ဆောင်ရွက်မှုကို အကဲဖြတ်စစ်ဆေးခြင်း နှင့် စာချုပ်စာတမ်း ပြောင်းလဲမှုများနှင့် ပြုပြင်မှုများကို သင့်လျော်သလို ဆောင်ရွက်ခြင်းဖြစ်သည်။ ဤလုပ်ငန်းစဉ်၏ အဓိက အကျိုးရလာဒ်သည် ရောင်းသူနှင့် ဝယ်သူနှစ်ဦးစလုံး၏ ဆောင်ရွက်မှုသည် တရားဝင် သဘောတူစာချုပ်ပါ စည်းကမ်းချက်များပါ ဖော်ပြချက်များ အရ ပစ္စည်းဝယ်ယူရေး လိုအပ်ချက်များ နှင့် ကိုက်ညီစေမှုကို သေချာစေရန်ဖြစ်သည်။

၅.၁၃ အစုရှယ်ယာပါဝင်သူများဆက်စပ်မှုကို ထိန်းချုပ်ခြင်း

စီမံကိန်းတွင် အစုရှယ်ယာပါဝင်သူတို့၏ ဆက်စပ်မှုများအားလုံးကို အကဲဖြတ်စစ်ဆေးရန်၊ အစုရှယ်ယာပါဝင်သူများ ဆက်စပ်မှုအတွက် မဟာဗျူဟာများနှင့် အစီအမံ/အစီအစဉ်များ ညီညွတ်မျှတမှုရှိစေရန် ညှိနှိုင်းခြင်း၊

စီမံကိန်းအခန်းကဏ္ဍများနှင့် တာဝန်ဝတ္တရားများအပေါ် သဘောတူညီမှု ရရှိစေရန် အစုရှယ်ယာပါဝင်သူများနှင့် အစည်းအဝေးများ၊ အလုပ်ရုံဆွေးနွေးပွဲများ ကျင်းပခြင်း၊

ဤလုပ်ငန်းစဉ်ရှိရခြင်း၏ အဓိက အကျိုးရလာဒ်သည် အစုရှယ်ယာပါဝင်သူများ ဆက်စပ်မှု လုပ်ငန်းစဉ်များအား စီမံကိန်း တစ်ဖြည်းဖြည်း ပြောင်းလဲတိုးတက်မှုနှင့် ယင်း၏ ပတ်ဝန်းကျင် အပြောင်းအလဲများအဖြစ် ထဲထဲဝင်ဝင် ထိရောက်မှုကို ထိန်းသိမ်းမည် (သို့မဟုတ်) တိုးပွားစေမည်။

၅.၁၄ ပြောင်းလဲမှုနှင့် သွေဖယ်မှု ထိန်းချုပ်ခြင်း

ပြောင်းလဲသွေဖယ်မှုများသည် စီမံကိန်းအကျဉ်းချုပ်ရန် (သို့မဟုတ်) ဒီဇိုင်းပုံစံ/ အစီအစဉ်ပြုပြင်မွမ်းမံခြင်း (သို့မဟုတ်) ဗိသုကာ (သို့မဟုတ်) လုပ်ငန်းခွင် ညွှန်ကြားချက်များ အစရှိသည်တို့ကြောင့် ထွက်ပေါ်လာသည့် ရလာဒ်ဖြစ်နိုင်သည်။ ပြောင်းလဲမှုနှင့် သွေဖယ်မှု ထိန်းချုပ်ခြင်းလုပ်ငန်းများတွင်...

- သက်ဆိုင်ရာသွေဖယ်မှု၏ နောက်ဆက်တွဲ အကျိုးဆက်များ အားလုံးကို သတ်မှတ်ဖော်ထုတ်ခြင်း၊
- သက်ဆိုင်ရာ စာချုပ်စာတမ်းများပါ ဖော်ပြထားချက်/ စည်းကမ်းချက်များကို တာဝန်ယူဆောင်ရွက်ခြင်း၊
- စရိတ်စက/ကုန်ကျစရိတ် ကန့်သတ်ခြင်း၊ ယင်းထက်ကျော်လွန်ပါက သက်ဆိုင်ရာ အာဏာပိုင်ထံ ဆွေးနွေးညှိနှိုင်းခြင်း၊ အလားတူ အသေးစိတ် သတ်မှတ်ဖော်ပြချက်များ (သို့မဟုတ်) ပြီးဆုံးရက်များကို သက်ရောက်စေသည် တို့ကို ဖြစ်စေပါက သက်ဆိုင်ရာ အာဏာပိုင်ထံ ဆွေးနွေးညှိနှိုင်းရန် သတ်မှတ်ခြင်းတို့ ပါဝင်သည်။

စီမံကိန်းလုပ်ငန်းအဖွဲ့နှင့် ဆွေးနွေးညှိနှိုင်းကာ အမှန်တကယ် အရေးကြီးသည့် ပြဿနာများကို ဖော်ထုတ် သတ်မှတ်ရမည်ဖြစ်ပြီး အရည်အသွေးဆိုင်ရာ လိုအပ်ချက်များကို မထိခိုက်စေဘဲ သတ်မှတ်အချိန်ကာလနှင့် ကုန်ကျစရိတ် ဘောင်အတွင်းမှ ရလာဒ်/အဖြေရှာရမည်။ လိုအပ်သော သဘောတူခွင့်ပြုချက်ကိုလည်း ရယူရမည်ဖြစ်သည်။

- မှန်ကန်သော/ပြုပြင်သော လုပ်ငန်းများနှင့် ဖြစ်နိုင်စွမ်းရှိသည့် လုပ်ထုံးလုပ်နည်း များကို ဆွေးနွေးသဘောတူရန်၊

**Shwe Taung Development Co., Ltd.**

နှင့်

**Botahtaung Health Care Co., Ltd.**

တို့၏

ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁) ရှိ မြန်မာ့မီးရထားရုံးချုပ် မြေနေရာ၊
မြေ (၃. ၅၁)ကေပေါ်တွင်

Hospital/ Hospital Suits (Hospital Service Apartment)/ Retail (Health & Lifestyle) Complex
တည်ဆောက်လုပ်ကိုင်ရန်**အတွက်**

# Development Agreement

(စာချုပ်မူကြမ်း)

## "Hospital & Lifestyle Mixed Development Project"

နေရာ။ ရန်ကုန်တိုင်းဒေသကြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။

Hospital/ Hospital Suits (Hospital Service Apartment)/ Retail (Health & Lifestyle) Complex တည်ဆောက်လုပ်ကိုင်ခြင်းအတွက် ဖက်စပ်ကုမ္ပဏီမှ Development လုပ်ငန်းများဆောင်ရွက်မည့် သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ ( ) ရက်နေ့တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ (၇) လမ်းနှင့်ကမ်းနားလမ်းထောင့်၊ အမှတ် (၅၈၄)၊ (၅)လွှာတွင် တည်ရှိသည့် Shwe Taung Development Co., Ltd. (နောင်တွင် ‐ ရွှေတောင်- ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ ဆက်ခံသူများနှင့်တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်။) ၏ကိုယ်စား ဦးအောင်ဇော်နိုင်၊ မှတ်ပုံတင်အမှတ် - ၁၂/လမတ(နိုင်)၀၂၅၇၅၈ အုပ်ချုပ်မှုဒါရိုက်တာက တစ်ဖက်နှင့် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ရန်ကုန်တိုင်းဒေသကြီး၊ အလုံမြို့နယ်၊ (ကမ်းနားလမ်း) ၊ အလုံတာဝါ၊ River View Garden Housing တွင် တည်ရှိသည့် Botahtaung Health Care Co., Ltd. (နောင်တွင် = ညီနောင်ကုမ္ပဏီ- ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရလွှဲအပ်ခြင်း ခံရသူများ၊ ဆက်ခံသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်ဟု မှတ်ယူရမည်။) ၏ကိုယ်စား ဒေါ်[illegible]ထွန်း- ဒါရိုက်တာက အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

၁။ **နိဒါန်း**

ရွှေတောင်သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ ဗဟိုမတော်ပိုင် နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ် (ဝင်းဟောင်း) နယ်မြေ (၂) ရှိ မြေ (၁၂. ၆၀၄)ဧက ပေါ်တွင် BOT တည်ဆောက်လုပ်ကိုင်ရန် တင်ဒါအောင်မြင်ခဲ့ပြီး အဆိုပါမြေ (၁၂. ၆၀၄)ဧက အနက် မြေ (၈. ၈၄၄)ဧက ပေါ်တွင် Hotel/ Service Apartment/ Shopping Complex တည်ဆောက်လုပ်ကိုင်ခြင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်အမှတ် ( ) ဖြင့် ရရှိလုပ်ကိုင်ခဲ့ပါသည်။

သို့ပါသော်လည်း ( )နေ့စွဲပါ ပြည်ထောင်စုအစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာအမှတ် (၆၆/၂၀၁၅) အရ အဆိုပါစီမံကိန်းအားရပ်ဆိုင်းခဲ့ပါသည်။

အဆိုပါရပ်ဆိုင်းခဲ့သော စီမံကိန်းမြေနေရာအတွက် တစ်စိတ်တစ်ဒေသအဖြစ် အစားထိုးမြေနေရာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရန်ကုန်တိုင်းဒေသကြီး ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၀-၃၆၀)ရှိ မြန်မာ့မီးရထား ရုံးချုပ်မြေနေရာ၊ မြေ (၃. ၅၁) ဧကအား Shwe Taung Development Co., Ltd. မှပြန်လည်ရရှိခဲ့ပြီး ၎င်းမြေ (၃. ၅၁)ဧက အနက်မှ (၁. ၉၃၁)ဧက ပေါ်တွင် Hospital/ Hospital Suits (Hospital Service Apartment)/ Retail (Health & Lifestyle) Complex (Hospital & Lifestyle Mixed Development Project) အား မိမိတို့ရွှေတောင်၏ ညီနောင်ကုမ္ပဏီဖြစ်သော Botahtaung Health Care Co., Ltd. rS vkyfief;pDrHudef; (Hospital & Lifestyle Mixed Development Project) ကို အောင်မြင်စွာ အကောင်အထည်ဖော်ရေးအတွက် တာဝန်ယူဆောင်ရွက်ရန် ညှိနှိုင်းသဘောတူကြပြီးဖြစ်ပါသည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

စာချုပ်ဝင်အသီးသီးတို့သည် အောက်ပါအတိုင်း အသီးသီးအာမခံခြင်းနှင့် ကိုယ်စားပြုခြင်းကိုပြုလုပ်ပါ သည်။

(က) ရွှေတောင်သည် အဆိုပါမြေ (၁. ၉၃၁)ဧက အပေါ်တွင် Hospital & Lifestyle Mixed Development Project တည်ဆောက်လုပ်ကိုင်ရန်အတွက် တရားဝင်လုပ်ကိုင်ခွင့်ရရှိသူဖြစ်ကြောင်းနှင့် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရ အခွင့်အာဏာရှိကြသူဖြစ်ကြောင်းအာမခံပါသည်။

(ခ) ဖက်စပ်ကုမ္ပဏီသည် စာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား၊ ဆောက်လုပ်ရေး နည်းပညာအင်အားနှင့် နိုင်ငံတကာအဆင့်မီ အဆောက်အဦများဆောက်လုပ်ရေးတွင် အတွေ့အကြုံခိုင်မာမှုရှိသော အဖွဲ့အစည်းဖြစ်ကြောင်းနှင့် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရ အခွင့်အာဏာရှိကြသူဖြစ်ကြောင်း အာမခံပါသည်။

## ၃။ လုပ်ငန်းအကောင်အထည်ဖော်မည့်မြေတည်နေရာ၊ အကောင်အထည်ဖော်မည့်သက်တမ်းနှင့် ဆောင်ရွက်မည့် လုပ်ငန်း

လုပ်ငန်းအကောင်အထည်ဖော်မည့် မြေတည်နေရာ၊ လုပ်ငန်းအကောင်အထည်ဖော်မည့် သက်တမ်းနှင့် ဆောင်ရွက်မည့် လုပ်ငန်းတို့ကို အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ပါမည်။

(က) လုပ်ငန်းအကောင်အထည်ဖော်မည့် မြေတည်နေရာ။ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ ကုန်သည်လမ်း၊ အမှတ် (၃၅၁-၃၆၁)ရှိ မြန်မာ့မီးရထား ရုံးချုပ်မြေနေရာရှိ၊ ပူးတွဲ(၁)ဖြင့် တင်ပြထားသောမြေပုံတွင် အနီအမှတ်အသားပြထားသည့်ဘောင်အတွင်းရှိ မြေဧရိယာ (၁. ၉၃၁)ဧက ဖြစ်ပါသည်။

(ခ) လုပ်ငန်းအကောင်အထည်ဖော်မည့်ကာလ။ ရွှေတောင်နှင့် မြန်မာ့မီးရထားတို့အကြား ချုပ်ဆိုထားသည့် BOT စာချုပ် (BOT) ပါ သဘောတူညီချက်အရသော်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်အရသော်လည်းကောင်း၊ ကနဦးနှစ် (၅၀) ငှားရမ်းပြီး တိုးမြှင့်သက်တမ်း တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်အထိ လုပ်ကိုင်မည်ဖြစ်ပါသည်။

(ဂ) ဆောင်ရွက်မည့်လုပ်ငန်း။ Hospital & Lifestyle Mixed Development Project တည်ဆောက်လုပ်ကိုင်ခြင်းကို ညီနောင်ကုမ္ပဏီမှ မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်ရမည်ဖြစ်ပါ သည်။

## ၄။ လုပ်ငန်းစီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှု

ဤသဘောတူစာချုပ်အရ ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် (            ) သန်း ဖြစ်ပါသည်။ အဆိုပါရင်းနှီးမြှုပ်နှံမှုပမာဏကို ညီနောင်ကုမ္ပဏီ၏ အစုရှယ်ယာရှင်များမှ ၄င်းတို့၏အစုရှယ်ယာပိုင်ဆိုင်မှု အချိုးအတိုင်း ကျခံဆောင်ရွက်မည် ဖြစ်ပါသည်။ လုပ်ငန်းလိုအပ်ချက်အရ ရင်းနှီးမြှုပ်နှံမှုပမာဏ ပြောင်းလဲပြင်ဆင်ရန်

လိုအပ်ပါက စာချုပ်ဝင်များမှ ညှိနှိုင်းအတည်ပြုပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြရမည် ဖြစ်ပါသည်။

## ၅။ စာချုပ်ဝင်များ လိုက်နာဆောင်ရွက်ရမည့် တာဝန်များနှင့်ဝတ္တရားများ

စာချုပ်ဝင်များသည် ဤသဘောတူစာချုပ်အရ လုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် မြန်မာ့မီးရထားနှင့် ရွှေတောင်တို့အကြား (                ) နေ့တွင်ချုပ်ဆိုထားသော B.O.T စာချုပ် ပါစည်းကမ်းချက်များ၊ စာချုပ်ဝင်များအကြားချုပ်ဆိုထားသော ဖက်စပ်စာချုပ်ပါစည်းကမ်းချက်များ၊ သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းများနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ တည်ဆဲလုပ်ထုံးလုပ်နည်းများနှင့်အညီ အထူးဂရုပြု လိုက်နာဆောင်ရွက်ကြရမည်ဖြစ်ကြောင်းကို သိရှိနားလည်သဘောတူကြပါသည်။

၅-၁ စစ်ထောက်ချုပ်ရုံးနှင့် ရွှေတောင်တို့ချုပ်ဆိုသော စာချုပ်ပါစည်းမျဉ်းစည်းကမ်းများနှင့် တာဝန်များအား လိုက်နာဆောင်ရွက်ခြင်း

စာချုပ်ဝင်အသီးသီးတို့သည်                အထက်ပါလုပ်ငန်းစီမံကိန်းကို                တင်ဒါအောင်မြင်ထားသော ရွှေတောင်နှင့်စစ်ထောက်ချုပ်ရုံးတို့ အကြားချုပ်ဆိုထားသော BOT စာချုပ်ပါ တာဝန်ဝတ္တရားများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ဤသဘောတူစာချုပ်တွင် အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် တာဝန်ရှိကြောင်းသဘောတူ ပါသည်။

(က) ညီနောင်ကုမ္ပဏီအနေဖြင့် စာချုပ်သက်တမ်းကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာ အသုံးပြုခွင့်ရမည်။

(ခ) ညီနောင်ကုမ္ပဏီအနေဖြင့် လုပ်ငန်းအကောင်အထည်ဖော်မည့် မြေပေါ်တွင် လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာ၌ ပြည်ထောင်စုမြန်မာနိုင်ငံ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရ မည်။

(ဂ) အဆိုပြုတင်ပြထားသည့်စာချုပ်ပါ အဆောက်အဦးအကွက်ချပုံစံ (Site Plan) အဆောက်အဦးအမျိုးအစားအလိုက်၏ အရေအတွက်နှင့်ပုံစံ (Drawing) များအတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး ပြောင်းလဲပြင်ဆင် ဆောက်လုပ်လိုပါက ရွှေတောင်သို့ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ရမည်။

(ဃ) ညီနောင်ကုမ္ပဏီသည် စာချုပ်သက်တမ်းကာလအတွင်း ယင်းမြေ၏လုပ်ငန်းတစ်ခုလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ ထပ်ဆင့်အငှားချထားခြင်း၊ ထုခွဲရောင်းချခြင်း၊ တစ်နည်းနည်းဖြင့် ထပ်ဆင့် လွှဲပြောင်းခြင်းမပြုလုပ်ရ။

(င) စာချုပ်သက်တမ်းကာလအတွင်း မြေပေါ်တွင်တည်ဆောက်မည့် အဆောက်အဦများကို မီးအာမခံနှင့် အခြားလိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေအရထားရှိရန် ညီနောင်ကုမ္ပဏီက တာဝန်ယူရမည်။

(စ) ညီနောင်ကုမ္ပဏီသည် လုပ်ငန်းအကောင်အထည်ဖော်သည့်မြေ၊ အဆောက်အဦများ၊ စသည့် လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ မြေခွန်မှအပ အခြား စည်ပင်သာယာခွန်အပါအဝင် လုပ်ငန်းဆောင်ရွက်မှုနှင့် သက်ဆိုင်သော အခွန်အခအားလုံးကို စာချုပ်သက်တမ်းအတွင်း အချိန်မှန်မှန် ပေးသွင်းရမည်။

(ဆ) ညီနောင်ကုမ္ပဏီမှ **Hospital & Lifestyle Mixed Development Project** လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ ဝင်ငွေစာရင်းအင်းများကို စနစ်တကျထားရှိရမည်။

(ဇ) နိုင်ငံတော်မှချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့် ငြိစွန်းသော လုပ်ငန်းရပ်များ လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဈ) ညီနောင်ကုမ္ပဏီသည် ရွှေတောင်မှဆောင်ရွက်သော ပြည်သူ့အကျိုးပြု အစီအစဉ်များအတွက် နှစ်စဉ် အမြတ်ငွေ၏ (၀.၅%) (သို့မဟုတ်) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သတ်မှတ်သော ရာခိုင်နှုန်းအချိုးအစားတစ်ခုခုကို ရန်ပုံငွေအဖြစ် နှုတ်ပယ်ထားရှိပြီး၊ ပြည်သူ့အကျိုးပြုအစီအစဉ်များ ဆောင်ရွက်ရန်အတွက် ရွှေတောင်သို့ လွှဲပေးရန် သဘောတူပါသည်။

(ည) စီမံကိန်းစုစုပေါင်း ရင်းနှီးမြှုပ်နှံမှု တန်ဖိုး၏ (၀.၂%)အား မြန်မာ့မီးရထားမှ ဖွဲ့စည်းထားသော Project Assurance Committee ၏ ဝန်ဆောင်မှုအတွက် ကုန်ကျစရိတ်ကို ဖက်စပ်ကုမ္ပဏီမှ ရွှေတောင်မှတစ်ဆင့် ကော်မတီသို့ ပေးသွင်းရမည်။

**၆။ ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း**

ညီနောင်ကုမ္ပဏီသည် အပိုဒ်( )ပါမြေ (၁၀.၉၃၁)ဧကအတွက် ငှားရမ်းခကို အောက်ပါအတိုင်း ပေးဆောင်ရမည်-

(က) မြေအသုံးချမှု ပရီမီယံကြေးအား မြေ (၁)ဧကအမေရိကန်ဒေါ်လာ (၂) သန်းနှုန်းဖြင့် မြေ (၁၀.၉၃၁) ဧကအတွက်အမေရိကန်ဒေါ်လာ ( ) သန်းအားပေးသွင်းရမည်။

(ခ) တည်ဆောက်ရေးကာလ (၂)နှစ် နှင့် (၆)လ သတ်မှတ်မည်ဖြစ်ပြီး ယင်းတည်ဆောက်ရေး ကာလအတွင်း မြေငှားရမ်းခကို ကင်းလွတ်ခွင့်ပြုမည်။ အငှားချထားသည့်မြေနေရာပေါ်ရှိ အဆောက်အအုံများ ဖျက်သိမ်းရန်နှင့် အကြိုအင်ဂျင်နီယာ လုပ်ငန်းများဆောင်ရွက်ရန်အတွက် စာချုပ်စတင်အကျိုးသက်ရောက်သည့် နေ့မှစ၍ (၆)လ သတ်မှတ်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလကို ထိုအဆောက်အအုံများဖျက်သိမ်းမည့် (၆)လကာလကုန်ဆုံးသည့်နေရက်မှ စတင်ရေတွက်မည်ဖြစ်သည်။ မြေငှားရမ်း

ခကို တည်ဆောက်ရေးကာလ (၂) နှစ်နှင့် (၆)လပြည့်သည့် (        ) ရက်နေ့ သို့မဟုတ် အဆောက်အဦးအားလုံး စတင်ဖွင့်လှစ်သည့်ရက် နှစ်ခုအနက် စောရာရက်မှစ၍ ယင်းအဆောက်အဦး အတွက် မြေငှားရမ်းခကို တွက်ချက်ပေးသွင်းရမည်။ အကယ်၍ တည်ဆောက်မှုကာလထက်စောပြီး အဆောက်အဦ၏ အစိတ်အပိုင်းအချို့ကို စတင်၍ လုပ်ငန်းဆောင်ရွက်ပါက ထိုသို့ လုပ်ငန်းစတင် ဆောင်ရွက်သည့် အစိတ်အပိုင်းအတွက် ကျသင့်မြေငှားခကို ပေးသွင်းရမည်။

(ဂ) နှစ်စဉ်မြေငှားရမ်းခကို (၁)စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၁၅)ဒေါ်လာနှုန်းဖြင့် အောက်ဖော်ပြပါအတိုင်းပေးသွင်းရမည်-

(၁) ငှားရမ်းခတွက်ချက်ရာတွင် အငှားချထားသည့် မြေပေါ်ရှိ အဆောက်အဦအားလုံးအတွက် အသားတင်ငှားရမ်းအသုံးပြုနိုင်သည့် ဧရိယာ (Net Lettable Area) ပေါ်တွင် တွက်ချက်ရမည်။ အသားတင်ငှားရမ်းအသုံးပြုနိုင်သည့်ဧရိယာ (Net Lettable Area) သည်အဆောက်အဦးအားလုံး၏ စုစုပေါင်းကြမ်းခင်းဧရိယာ (ကားပါကင်ဧရိယာမပါ)Total Gross Floor Area ၏ အများဆုံး (၈၀%) သတ်မှတ်မည်ဖြစ်ပါသည်။

(၂) အသားတင်ငှားရမ်းအသုံးပြုနိုင်သည့်ဧရိယာတွင် ကားရပ်နားရန်နေရာများ၊ သန့်စင်ခန်း၊ လျှောက်လမ်း၊ လှေကားနေရာများစသည့် အများအသုံးပြုသည့်နေရာများ မပါဝင်ပါ။

(ဃ) အထက်အပိုဒ်( )အရသတ်မှတ်ထားသော နှစ်စဉ်ငှားရမ်းခများကို နှစ်စဉ်ပေးသွင်းရာတွင် အမေရိကန် ဒေါ်လာဖြင့် လည်းကောင်း၊ (သို့မဟုတ်) ငွေပေးသွင်းသည့် အချိန်တွင် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ သတ်မှတ်သည့် အမေရိကန်ဒေါ်လာနှင့် ညီမျှသော မြန်မာကျပ်ငွေနှုန်းထားဖြင့်လည်းကောင်း၊ (၁)နှစ်လျှင် တစ်ကြိမ် ကြိုတင်ပေးသွင်းရမည်။

(င) ငှားရမ်းခများကိုအချိန်စေ့ရောက်ပြီးသည့်နေ့မှစ၍ ရက်ပေါင်း (၃၀)အတွင်း ပေးသွင်းရမည်။

(စ) နှစ်စဉ်ငှားရမ်းခကို အထက်အပိုဒ်(ဆ)ပါ သဘောတူညီချက်အတိုင်း အချိန်မီပေးချေခြင်း မပြုပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့်ငွေ၏ (၀. ၀၅%) (ဒသမသုညငါးရာခိုင်နှုန်း)နှင့် ညီမျှသောငွေကိုဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။သို့သော် ထိုဒဏ်ကြေးငွေ စုစုပေါင်းသည် ပေးချေရမည့်ငွေစုစုပေါင်း၏ (၅%)ထက်မများစေရ။

(ဆ) ညီနောင်ကုမ္ပဏီသည် အဆိုပါလုပ်ငန်းစီမံကိန်းအတွင်းရှိ အများဆိုင်သည့်လမ်းတွင် ညီနောင်ကုမ္ပဏီ ၏ ဧရိယာနှင့် ရွှေတောင်၏ဧရိယာများ အသီးသီးအတွက် မြေအသုံးချမှု ပရီမီယံကြေးကို အမေရိကန် ဒေါ်လာ (၂,၀၀၀,၀၀၀) ပေါ်တွင် ညီနောင်ကုမ္ပဏီ၏ဧရိယာအတွက် ရွှေတောင်သို့ အထက်အပိုဒ် ( )ပါအတိုင်း ရွှေတောင်မှသတ်မှတ်ထားသော အချိုးကျ အတိုင်း ပေးချေရန် သဘောတူပါသည်။

(ဈ) ငှားရမ်းခကို (၅)နှစ် (၆)နှစ်)တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည် ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%)ထက်မကျော်လွန်စေရ။

(ဈ) အဆောက်အဦများတည်ဆောက်မည့် လုပ်ငန်းအားလုံးကို စာချုပ်ချုပ်ဆိုသည့်နေ့မှစ စာချုပ်အပိုဒ် ( )ပါ သတ်မှတ်ကာလများအလိုက် အပြီးဆောက်လုပ်၍ ဖွင့်လှစ်ရမည်။ ညီနောင်ကုမ္ပဏီသည်

ဖွင့်လှစ်နိုင်ခြင်းမရှိပါက ငှားရမ်းထားသော မြေနှင့်အဆောက်အဦးများကို ရွှေတောင်ထံသို့ ပြန်လည်လက်ရောက်အပ်နှံရမည်ဖြစ်ပြီး ညီနောင်ကုမ္ပဏီမှ ပေးသွင်းခဲ့သော မြေအသုံးချမှု ပရီမီယံ ကြေးများနှင့် မြေငှားရမ်းခများကို ပြန်လည်ထုတ်ပေး ခြင်းမရှိစေရ။

(ည) ညီနောင်ကုမ္ပဏီသည် အဆောက်အဦးဟောင်း ဖျက်သိမ်းသော လုပ်ငန်းများအတွက် ကုန်ကျစရိတ်ကို ထုတ်နှုတ်ပြီး ကျန်တန်ဖိုးကို မြန်မာ့မီးရထားကို ပြန်လည်ပေးသွင်းရမည်။

**၇။ ဒဏ်ကြေးပေးဆောင်သည့်ကာလ သတ်မှတ်ခြင်းနှင့် မြေနှင့်အဆောက်အဦများကို ပြန်လည် လက်ရောက် ပေးအပ်ခြင်း**

မြန်မာ့မီးရထားနှင့် ရွှေတောင်တို့ချုပ်ဆိုသော B.O.T စာချုပ်ပါ ငွေပေးချေခြင်းနည်း လမ်းများနှင့် စပ်လျဉ်း၍ ရွှေတောင်မှ လိုက်နာဆောင်ရွက်ရာတွင် အချိန်မီပြီးမြောက်စေရန် ညီနောင်ကုမ္ပဏီမှ အောက်ပါအချက်များကိုပါ ထပ်ဆောင်းလိုက်နာရန် သဘောတူပါ သည်။

(က) အဆောက်အပိုဒ် (၇)အရ ပထမအကြိမ် မြေအသုံးချမှုပရီမီယံကြေးပေးချေမှုကို ဖက်စပ် စာချုပ် လက်မှတ်ရေးထိုးသောနေ့မှ (၂၁)ရက်အတွင်း လည်းကောင်း၊ ကျန်ပေးချေရန်ရှိသော မြေအသုံးချမှု ပရီမီယံကြေးနှင့် သတ်မှတ်ထားသော မြေငှားရမ်းခများကို ရွှေတောင်မှ မြန်မာ့မီးရထားသို့ ပေးဆောင် ရန် အချိန်မတိုင်မီ ရက်ပေါင်း (၃၀)အတွင်း ညီနောင်ကုမ္ပဏီမှ ရွှေတောင်သို့ မပျက်မကွက် ပေးဆောင် ရမည်။

(ခ) ဒဏ်ကြေးပေးဆောင်နိုင်သည့် သတ်မှတ်ကာလမှာ မြေအသုံးချမှုပရီမီယံကြေးနှင့် ငှားရမ်းခများပေးချေ ရန် သတ်မှတ်ထားသော အချိန်စေ့ရောက်ပြီးသည့်နေ့အသီးသီးမှ ရက်ပေါင်း (၉၀)အတွင်းဟု သတ်မှတ်သဘောတူပါသည်။

(ဂ) မြေအသုံးချမှုပရီမီယံကြေး/ ငှားရမ်းခများ ပေးချေရန် သတ်မှတ်ထားသော ကာလနှင့် ဒဏ်ကြေး ငွေပေးဆောင်ရန် သတ်မှတ်ထားသောကာလ နှစ်ရပ်လုံးအား (၃)လဆက်တိုက် ကျော်လွန်၍ ညီနောင်ကုမ္ပဏီမှ ပေးချေခြင်းမပြုပါက စာချုပ်အပိုဒ် (၁၂)အရ စာချုပ်ရပ် စဲပြီး၊ ဤစာချုပ်ပါ သဘောတူညီထားသောလုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ မြေနှင့်အဆောက်အဦများကို ရွှေတောင်၏ပိုင်ဆိုင်

မှုများအဖြစ် မည်သည့်အဖိုးစားနားမျှမပါရှိဘဲ၊ ပေးချေရန် ပျက်ကွက်သည့်နေ့မှ (၃)လအတွင်း ပြန်လည်လက်ရောက်အပ်နှံရမည်ဖြစ်ပြီး ညီနောင်ကုမ္ပဏီမှ ပေးသွင်းခဲ့ပြီးသော မြေအသုံးချမှုပရီမီယံကြေးများနှင့် မြေငှားရမ်းခများအပါအဝင် ပေးချေငွေများအား ပြန်လည်ထုတ်ပေးရန် တာဝန်မရှိကြောင်း သဘောတူပါသည်။

## ၈။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

ဤသဘောတူစာချုပ်သည် B.O.T စာချုပ် ၊ ညီနောင်ကုမ္ပဏီ ၊ ဖက်စပ်စာချုပ်နှင့် ဤသဘောတူစာချုပ်များကို သက်ဆိုင်ရာအာဏာပိုင်များ၏ စာဖြင့်ရေးသားအတည်ပြုချက်များရရှိမှုနှင့် ဖက်စပ်စာချုပ် အကောင်အထည်ဖော် ဆောင်ရွက်မှုရှိမှသာ စာချုပ်စတင်အကျိုးသက်ရောက်မှုရှိမည် ဖြစ်ပါသည်။

## ၉။ မြေနှင့် အဆောက်အဦးလွှဲပြောင်းပေးအပ်ခြင်း

ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း သက်တမ်းကုန်ဆုံးသည့် အခါ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်အခါ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (သို့မဟုတ်) စာချုပ်ရုပ်စဲသည့်နေ့မှ (၃)လအတွင်း ညီနောင်ကုမ္ပဏီက အငှားချထားသည့်မြေနှင့် အဆောက်အဦးများ၊ ၎င်းမြေပေါ်ရှိ ညီနောင်ကုမ္ပဏီမှ ဆောက်လုပ်ထားသော အဆောက်အဦးနှင့် ပစ္စည်းများအားလုံး မည်သည့် အဖိုးစားနားမျှ မပါရှိဘဲ ရွှေတောင်အားပြန်လည်လွှဲပြောင်း ပေးအပ်ခြင်းပြုရမည်။ သို့ရာတွင် Hospital & Lifestyle Mixed Development Project နှင့် အခြားဖက်စပ်သည့် လုပ်ငန်းများနှင့်မြေပေါ်တွင် ညီနောင်ကုမ္ပဏီမှ ဆောက်လုပ်ခဲ့သည့် အဆောက်အဦးတွင် တပ်ဆင်ထားသည့်(Fixture)ပစ္စည်းများမှအပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို ညီနောင်ကုမ္ပဏီမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

## ၁၀။ စာချုပ်သက်တမ်း

ဤစာချုပ်၏ သက်တမ်းသည် ဤစာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှ ကနဦးနှစ် (၅၀) ဖြစ်သည်။ ကနဦးနှစ်(၅၀)ကုန်ဆုံးပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း (၂)ကြိမ်အထိ စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။ ညီနောင်ကုမ္ပဏီသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦး သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး (၃)လ ကြိုတင်၍ ရွှေတောင်သို့ စာဖြင့်အကြောင်းကြားစာတင်ပြရမည်။ စာချုပ်သက်တမ်း တိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

## ၁၁။ စာချုပ်အကျိုးသက်ရောက်သည့်နေ့ရက်

ဤစာချုပ်သည် ညီနောင်ကုမ္ပဏီနှင့် ရွှေတောင်တို့၏ တရားဝင် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

## ၁၂။ အငြင်းပွားမှုဖြေရှင်းခြင်း

ဤစာချုပ်၏ အငြင်းပွားမှု ပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ ညှိနှိုင်းဖြေရှင်း မရပါက တည်ဆဲအနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေနှင့်အညီအဆုံးအဖြတ်ကို ခံယူရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့ ဖြစ်ပါသည်။

## ၁၃။ စာချုပ်ရပ်စဲခြင်း

(က) အောက်ဖော်ပြပါ အကြောင်းအချင်းအရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင်ဤစာချုပ်ကိုရပ်စဲနိုင်သည်-

(၁) ဤစာချုပ်ပါတာဝန်များနှင့်စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဖောက်ဖျက်၍ အခြားစာချုပ်ဝင်မှ အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း (   ) အတွင်း ပြန်လည်ကုစားဆောင်ရွက်ပေးရန် ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း(၆)လ ကြာမြင့်သောကြောင့် ညီနောင်ကုမ္ပဏီမှ အငှားချထားသည့်မြေပေါ်တွင် ဆက်လက်ဆောင်ရွက်နိုင်ခြင်းမရှိတော့ကြောင်း ရွှေတောင်သို့ အကြောင်းကြား စာပေးပို့လျှင်။

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(၄) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(ခ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဂ) ထိုသို့ စာချုပ်ရပ်စဲခြင်းအကျိုးသက်ရောက်သည့်နေ့မှ(၃)လ အတွင်းမြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦးတို့ကို အပိုဒ် (   ) နှင့်အညီ ညီနောင်ကုမ္ပဏီက ရွှေတောင်သို့ အဖိုးစားနားမဲ့ပြန်လည်ပေးအပ်ရမည်။



## ၁၄။ ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း

လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများသို့မဟုတ် စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူညီချက်ဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

## ၁၅။ ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ

ဤစာချုပ်၏သက်တမ်းကာလအတွင်း ငှားရမ်းထားသော မြေ၏ မြေပေါ်မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝ သယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကိုတွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်ကပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

## ၁၆။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ ငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် ညီနောင်ကုမ္ပဏီသည် ရွှေတောင်သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း ညီနောင်ကုမ္ပဏီသည် ရွှေတောင်သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ ရွှေတောင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ယင်းဖြစ်ရပ်သည် တည်ဆောက်ရေးကာလအတွင်း ဖြစ်ပေါ်ပါက တည်ဆောက်ရေးကာလတိုးမြှင့်ပေးခြင်းနှင့် တည်ဆောက်ရေးကာလပြီးစီးသည့် အချိန်တွင် ဖြစ်ပေါ်ပါက မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## ၁၇။ ဝန်ထမ်းများခန့်ထားခြင်း

လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ ညီနောင်ကုမ္ပဏီမှခန့်ထားပြီး၊ ယင်းတို့၏ လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်း ချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ် မြန်မာနိုင်ငံ၏ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက် ခြင်းမပြုရန် ညီနောင်ကုမ္ပဏီက တာဝန်ယူရမည်။

## ၁၈။ ကင်းလွတ်ခွင့် သက်သာခွင့်များ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်း လွတ်ခွင့်များ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် ရွှေတောင်မှ ကူညီဆောင်ရွက်ပေးမည်ဖြစ်သည်။

## ၁၉။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

အငှားချထားခြင်းခံရသူသည် စွန့်ပစ်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ် စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိ စေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## ၂၀။ စာပေးစာယူပြုလုပ်ရန်ကိစ္စ

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ သို့မဟုတ် အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်း စာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည်-

(က) ရွှေတောင်

အမည် -

ရာထူး -

လိပ်စာ -

ဖုန်းနံပါတ် -

(ခ) ညီနောင်ကုမ္ပဏီ

အမည် -

ရာထူး -

လိပ်စာ -

ဖုန်းနံပါတ် -

## ၂၁။ မြေသို့ပြန်လည်ဝင်ရောက်ခွင့်

ညီနောင်ကုမ္ပဏီသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် ရွှေတောင်က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန်

ညီနောင်ကုမ္ပဏီသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါ က ရွှေတောင်သည် အငှားချထားသည့်မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် ရွှေတောင်က ညီနောင်ကုမ္ပဏီထံမှရရန်ရှိသောငှားရမ်းခ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက်လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၂။ **အာမခံထားခြင်း**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ မြန်မာ့အာမခံဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အမျိုးအစားအားလုံး အာမခံများထားရှိ ရမည်။

၂၃။ **အထွေထွေ**

ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင် စာရွက်စာတမ်း၊ [Hospital & Lifestyle Mixed Development Project နှင့် အခြားဆက်စပ်သည့် လုပ်ငန်းများ] များ၏အဆောက်အဦပုံစံများ၊ အထောက်အထား များသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၂၄။ **လက်မှတ်ရေးထိုးခြင်း**

အထက်စာချုပ်ပါအချက်အလက်များကို ရွှေတောင်နှင့် ညီနောင်ကုမ္ပဏီ တို့သေချာစွာ ဖတ်ရှုပြီး နှစ်ဦးနှစ်ဖက်သဘောတူ လက်ခံပါသဖြင့် (     ) ခုနှစ် (     ) လ ( )ရက်နေ့၌ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် ရွှေတောင်နှင့် ညီနောင်ကုမ္ပဏီတို့က လက်မှတ်ရေးထိုးကြပါသည်။

| ရွှေတောင် (ကိုယ်စား) | ညီနောင်ကုမ္ပဏီ (ကိုယ်စား) |
|---|---|
| လက်မှတ် -------------------- | လက်မှတ် ---------------------- |
| အမည် | အမည် |
| မှတ်ပုံတင်အမှတ် | မှတ်ပုံတင်အမှတ် |
| ရာထူး | ရာထူး |
| လိပ်စာ | လိပ်စာ |

- သဘောတူထားသော လုပ်ငန်းများအား လိုအပ်သလို အကောင်အထည် ဖော်ဆောင်ရွက်မှုကို သေချာစေရန်၊

၅.၁၅ စီမံကိန်းတိုးတက်မှု အကဲဖြတ်စစ်ဆေးခြင်း

စီမံကိန်းတိုးတက်မှု အကဲဖြတ်စစ်ဆေးခြင်း၏ ရည်ရွယ်ချက်သည် လိုအပ်သည့် မှန်ကန်အောင်/ပြုပြင်ဆောင်ရွက်သော လုပ်ငန်း နှင့်/သို့မဟုတ် အကာအကွယ်ပြုသော လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် စီမံကိန်း တိုးတက်မှုကာလအတွင်း စီမံကိန်း၏ အရေးပါသော အစိတ်အပိုင်း အားလုံးကို နှံ့နှံ့စပ်စပ် အကဲဖြတ် ဆန်းစစ်ရန်ဖြစ်သည်။ ဤ အကဲဖြတ်ဆန်းစစ်ခြင်းသည် စီမံကိန်းကို ထိရောက်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ခြင်း၊ ရည်ရွယ်သော ရလာဒ် ရရှိခြင်း၊ အရင်းအမြစ်များအား အမြင့်မားဆုံး အသုံးချခြင်း နှင့် အထူးသဖြင့် လုပ်ငန်းလည်ပတ်လုပ်ကိုင်ခြင်း အတွက် ကုန်ကျစရိတ်များသည် သတ်မှတ်အဆင့်တွင်ရှိခြင်း တို့ကို ခွဲခြမ်းစိတ်ဖြာ စစ်ဆေးရန် ကောင်းသော အလေ့အထ တစ်ခုဖြစ်သည်။

၆.၀ လုပ်ငန်း တိုးတက်မှု အစီရင်ခံစာ

စီမံကိန်း စီမံခန့်ခွဲမှု အခန်းကဏ္ဍ၏ အခြေခံ အယူအဆသည် စီမံကိန်း၏ လက်ရှိအနေအထားကို ပုံမှန် အစီရင်ခံစာ တင်ပြခြင်း ဖြစ်သည်။ အစီရင်ခံစာ တင်ပြခြင်းသည် အဖွဲ့အစည်းတစ်ခုလုံး၏ နောက်ဆုံးအခြေအနေကို စဉ်ဆက်မပြတ် ဆက်သွယ်သည့် ယန္တရားဖြစ်ပြီး လုပ်ဆောင်ချက် လုပ်ငန်းများနှင့် ဆုံးဖြတ်ချက်များကို စာရင်းစစ်ဆေးနိုင်ရန် အထောက်အပံ့ပေးသည်။

လုပ်ငန်း ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်သူထံမှ လုပ်ငန်းတိုးတက်မှု အစီရင်ခံစာ ရရှိပါက စီမံကိန်း အာမခံသည် စီမံကိန်း မည်သည့်အခြေအနေ ရှိသည်ကို သိရှိရန် စီမံကိန်း အခြေအနေကို ဆန်းစစ် သုံးသပ်ရမည်။ ယင်းတွင် စီမံကိန်း၏ အယူအဆအားလုံး ပါဝင်ခြင်း၊ ပြဿနာများ သတ်မှတ်ဖော်ပြခြင်း နှင့် လိုအပ်သော (သို့မဟုတ်) ဆောင်ရွက်ခဲ့သော ဆုံးဖြတ်ချက်များ နှင့် စီမံကိန်း၏ ရလာဒ်ကို ကြိုတင်ခန့်မှန်းခြင်း၊ အဖွဲ့အစည်း/ပုဂ္ဂိုလ် (မြန်မာ့မီးရထား) သို့ အစီရင်ခံတင်ပြခြင်း တို့ ပါဝင်ရမည်။

# Botahtaung Health Care Co., Ltd.
# (Hospital & Lifestyle Mixed-Development Project)

## Proposal

## For

## EIA (Environmental Impact Assessment)

## Of

## Service Apartment, Retail, Shopping Complex, Hospital and Other related business Project, Botahtaung Township, Yangon Region, Myanmar

**February, 2016**

National Engineering & Planning Services Co., Ltd,Myanmar

## About NEPS

National Engineering & Planning Services is a company incorporated in Myanmar in 1998 specializing in Planning, Design, Construction and Engineering Consultancy Services related to civil engineering works. It has the resources and experience essential for the successful completion of the tasks.

NEPS has more than 40 engineers and specialists of various disciplines including geology, geo-technology, agronomy, hydraulics, hydrology, geomatic engineering, social economics and remote sensing subjects. Among the above specialists, 15 key personnel of NEPS have work- experience of more than 30 years and had proven expertise having post graduate trainings in overseas institutes.

For flora, terrestrial fauna and aquatic fauna study, some specialists (Retired Professors and Lecturers from the Universities) are affiliated with NEPS to cope with the diversified nature of EIA works.

Among other works, NEPS had involved in the following EIA and SIA related works:

- Worked as a local counterpart team to COLENCO Power Engineering of Switzerland in 2006-07 in SIA (Social Impact Assessment) study for Tamanthi Dam Hydropower and Multipurpose Project.

- In year 2008-09, NEPS had carried out environmental baseline study (Water Quality) in Hydropower Development of Ayeyawady River Basin, Myitkyina Project.

- NEPS had completed EIA and SIA works in 2012 for Baluchaung 3 Hydropower Project of High Tech Concrete Company Ltd. in which AF-Colenco of Switzerland was the main consultant.

- In year 2012-13 NEPS had worked for JPOWER of Japan in Environmental and Local Community Survey for Feasibility Study on Small Scale Hydropower Development with Existing Irrigation Dams in Myanmar.

- In year 2012-13, NEPS also worked for SANYU Consultants Inc. of Japan for Inventory Survey of existing wells on data collection survey on water resource potential for Thilawa Special Economic Zone and Adjoining Areas.
- NEPS is associated with an International Consultancy firm, Norconsult of Norway (www.norconsult.com) and has completed the ESIA

(Environmental and Social Impact Assessment) for the POL Storage and Port Facilities Project for Thilawa, Thanlyin and Kyauktan Townships for eleven group of companies in 2013.

- In association with Norconsult of Norway, NEPS has worked as a local counterpart consultant team and had completed the ESIA (Environmental and Social Impact Assessment) for the World Bank Project of Upgrading Thaton Gas Turbine Project, Mon State in 2013.

- NEPS had completed IEE / EIA / RAP works on (1) ShukhinThar Jetty Project, Tharketa Township, Yangon Region, (2) Rubber Factory Project at Belin Township, Mon State, (3) Okkan Sugar Factory Project, Thaikkyi Township, Yangon Region, (4) Concrete Production Project, Tharketa Township, Yangon Region, (5) Timber Factory Project, Kyimyindaing Township, Yangon Region, (6) Shoe Factory Project, HlaingThayar Township, Yangon Region, (7 Dry Port Project at YwaThaGyi, Yangon Region and (8) Myitnge Dry Port Project, Mandalay Region (2013 – 2014)

- NEPS also worked for TTW (Thai Tap Water) Public Company Limited of Thailand and has completed ESIA works on Mawlamyine Clean Tap Water Supply Project, Malamyine, Mon State (2015).

- NEPS worked for SN Power Co. Ltd. of Norway / Singapore and has completed Preliminary EIA (Environmental Impact Assessment) on Middle Yeywa Hydropower Project (2015)

- NEPS is currently working on EIA and SIA works with RAP(Resettlement Action Plan) on The Construction of a modern Multi-purpose international wharf and integrated agriculture processing facilities and associated utility buildings at Thilawa SEZ (Special Economic Zone), Plots 20, 21 and triangle area between Plots 21and 22.

Along its services, NEPS had undertaken the works of Irrigation Department, Water Resources Utilization Department of Ministry of Agriculture and Irrigation, Department of Hydropower, Implementation of Ministry of Electric Power No. (1), Ministry of Industry, International Non- governmental Organizations, UNDP, Japan International Cooperation Agency (JICA), Japan Electric Power Development Co., Ltd. (JPOWER), World Bank (WB) and Local Private Companies as well.

More information about NEPS could be seen on the website **www.neps-myanmarengineering.com**

**ESIA (Environmental and Social Impact Assessment) of Service Apartment, Retail, Shopping Complex, Hospital and Other related business Project, Botahtaung Township, Yangon Region.**

A. SCOPEOF WORKS

CONTENT

1. Executive Summary
2. Introduction
    2.1 Objective of EIA and SIA Study

3. Project Description
    3.1 Project Overview
    3.2 Project Location
    3.3Methodology and Approach
    3.4 Policy, Legal and Institutional Framework

4. Baseline Study of the Environment
    4.1 Physical Environment
    4.2 Biological Environment
    4.3 Socio-Economic and Cultural Environment

5. Potential Environmental and Social Impacts from Anticipated Project
    5.1ConstructionPhase
        5.1.1Bio-PhysicalImpacts
            ▪Storm water run-off
            ▪Construction Impacts of noise, dust and increased traffic, etc.
            ▪Solid waste handling
            ▪Liquid waste handling including sanitation
            ▪Changes in natural drainage patterns
        5.1.2Socio-Economic Impacts
            ▪Visual/aesthetic impact
            ▪Impact on local service and livelihood
            ▪Employment opportunities
            ▪Possible cultural impact
            ▪Health and Safety routines for workforce

## B.SCHEDULEOFWORKS

The ProposedSchedule of Worksfor ESIA on Service Apartment, Retail, Shopping Complex, Hospital and Other related business Project, Botahtaung Township, is as follows:

| ESIA Works for Service Apartment, Retail, Shopping Complex, Hospital and Other related business Project, Botahtaung Township Township, Yangon Region | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|
| Item | Works | Weeks | | | | | | | |
| | | wk1 | wk2 | wk3 | wk4 | wk5 | wk 6 | wk7 | wk8 |
| 1 | Preliminary Survey: Screening and Scoping | | | | | | | | |
| 2 | Secondary Data Collection | | | | | | | | |
| 3 | Baseline Study (Water, Air and Noise levels) | | | | | | | | |
| 4 | Impact Assessment and mitigation measures | | | | | | | | |
| 5 | Environmental Management Plan | | | | | | | | |
| 6 | Public Consultation Meeting | | | | | | | ▼ | |
| 7 | Draft Report Submission and Finalize Report | | | | | | | | ▼ ▼ |

## Obligations of Client

1 The client shall furnish without charges and within a reasonable time all pertinent data and information available to him and shall give such assistance as shall reasonably be required by the Consultant (NEPS) for the carrying out of his duties under the Agreement.

2 The client will facilitate the Consultant (NEPS) to meet with Government Authorities, Public and any stakeholder for discussions relevant to the Services.

3 The client will facilitate the consultant to the project area concerned.

4 The client has to assign counterpart personnel(s) as necessary to the Consultant during the services at site.

## C. Cost Estimate for ESIA Works on Soap Manufacturing Project, Hlaing Township, Yangon Region.

Remuneration for Environmental Staff, Office overhead and facilities, tax, quality assurance charges = 89,00,000. Kyats (Eighty-Nine Lakhs Kyats) only.

# Botahtaung Health Care Co.,Ltd
# (Hospital & Lifestyle Mixed-Development Project)

## မီးဘေးနှင့် သဘာဝဘေးအန္တရာယ်မှ
## ကြိုတင်ကာကွယ်ရေး စီမံချက်

## ( ရေဘေး၊ လေဘေး၊ မြေငလျင်ဘေး )

# Botahtaung Health Care Co.,Ltd
# (Hospital & Lifestyle Mixed-Development Project)

သဘာဝဘေးအန္တရာယ်မှ ဆယ်တင်ရေးစီမံချက်

နိဒါန်း

သဘာဝဘေးအန္တရယ်များဖြစ်ကြသော မီးဘေး၊ ရေဘေး၊ လေဘေးနှင့် မြေငလျင်ဘေးသို့ ပေါ်ပေါက်ပါက ဆေးရုံကြီးတွင် လာရောက်၍ ဆေးကုသမှုခံယူလျက်ရှိကြသော ဝေဒနာရှင်တို့၏ အသက်ဘေးကို အတတ်နိုင်ဆုံး ကာကွယ်စောင့်ရှောင့်မှုပြုရန် တာဝန်ရှိသည့်အလျောက် ဤသဘာဝဘေးအန္တရာယ်မှ ကယ်ဆယ်ရေးစီမံချက်ကို ရေးဆွဲ ဆောင်ရွက်ခြင်းဖြစ်ပါသည်။

၁။ မီးဘေး

အထက်ဖော်ပြပါ ဘေးအန္တရာယ်များအနက် မြန်မာနိုင်ငံတွင် အခြားသော ဘေးအန္တရာယ်များထက် မီးဘေးမှာ အရေးကြီးဆုံးသော သဘာဝဘေးအန္တရာယ်တစ်ရပ်ဖြစ်ပါ၍ ဤစီမံချက်တွင် မီးဘေးအား အလေးထား၍ ရေးဆွဲထားအပ်သည်။

(က) ကြိုတင်ကာကွယ်ခြင်းလုပ်ငန်းများဆောင်ရွက်ခြင်း

- မီးသတ်ဆေးဗူးများ လုံလောက်စွာထားရှိခြင်း။
- မီးလောင်လွယ်သာ ယာဉ်မောင်းဆီများကို စနစ်တကျထားရှိခြင်း။
- မီးလောင်စာများဖြစ်သော အမှိုက်သရိုက်များကို စနစ်တကျစွန့်ပစ်ခြင်း၊ သီးသန့်ထားရှိခြင်း။
- လျှပ်စစ်ဓါတ်အား သုံးစွဲရာမှ မီးဘေးမပေါ်ပေါက်စေရန်အတွက် Tranformer များ၊ မီးစက်များ၊ အဆောက်အအုံတွင် တပ်ဆင်ထားသော လျှပ်စစ်ဓါတ်အားသုံးပစ္စည်းများ၊ စက်ကိရိယာများ၊ သွယ်တန်းတပ်ဆင်ထားသည့် မီးကြိုးများ အရည်အသွေးမှန်ခြင်း၊ စနစ်တကျ တပ်ဆင်ထားခြင်းနှင့် တာဝန်ရှိရေ၊ မီး ဝန်ထမ်းများအနေဖြင့် စီမံချက်ရေးဆွဲ၍ ပုံမှန် Maintenance လုပ်ငန်းများကို ဆောင်ရွက်ခြင်းနှင့် ဆေးခန်းကြီးတွင် တက်ရောက်ကုသကြသော လူနာများ၊ လူနာရှင်များအနေဖြင့် (Watt) အားကြီးသည့် လျှပ်စစ်မီးဖိုများ၊အခြားလျှပ်စစ်သုံးပစ္စည်းများကို သုံးစွဲခြင်းမပြုရန်သက်ဆိုင်ရာ အလွှာတာဝန်ခံ သူနာပြုဆရာမကြီးများမှတဆင့် မေတ္တာရပ်ခံထားရှိခြင်း၊ ၄င်းအပြင်ဝန်ထမ်းများ မီးငြိမ်းသတ်သည့် အတွေ့အကြုံရရှိစေရေးအတွက် ဆေးရုံတည်ရှိရာ မီသတ်ဌာန၏ အကူအညီဖြင့် မီးသတ်ငြိမ်းသတ်ခြင်း သရုပ်ပြပွဲပြ၍ ပြုလုပ်ပေးခြင်း။

(ခ) မီးဘေးအန္တရာယ်ပေါ်ပေါက်ပါက ဦးစားပေးဆောင်ရွက်ရန်များ

(၁) အထူးဦးစားပေး - လူနာများ မီးဘေးအန္တရာယ်လွတ်ကင်းရာသို့ သယ်ယူပြောင်းရွှေ့ရန်၊
(၂) ဦးစားပေး (၁) - ဆေးခန်းပိုင်ဘဏ္ဍာငွေများနှင့် အခြားဆေးဘက်ဆိုင်ရာ စက်ကိရိယာများ၊

(ဂ) မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်မှု

(၁) ပြင်ပပတ်ဝန်းကျင်မှ ကူးစက်ခြင်းအန္တရာယ်
(၂) မိမိအဆောက်အအုံမှ စတင်လောင်ကျွမ်းခြင်း အန္တရာယ်

(၁) ပြင်ပပတ်ဝန်းကျင်မှ ကူးစက်ခြင်းအန္တရာယ်

- ပြင်ပပတ်ဝန်းကျင်မှ ကူးစက်နိုင်သောမီးဖြစ်ပါက သင့်တင့်သောအချိန်ရသဖြင့် ဒါရိုက်တာအဖွဲ့ဝင်တစ်ဦး၏ ဆုံးဖြတ်ချက်အရ ပြောင်းရွှေ့ရန်လိုအပ်သည်ဟု ညွှန်ကြားမှုရသည်နှင့် တစ်ပြိုင်တည်း ဦးစားပေးသတ်မှတ်ချက်အလိုက် မီးလွတ်ရာဒေသသို့ ချက်ချင်းစတင်၍ ပြောင်းရွှေ့မှု လုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်။
- မီးကူးစက်မှု မပြုနိုင်ရန်အတွက် မီးသတ်ဗူး ၊ရေ ၊သဲ စသည့် မီးငြိမ်းသတ်နိုင်သည့် ပစ္စည်းတို့ကို သုံး၍မီးကို တားဆီးရန်၊

(၂) <u>မိမိအဆောက်အအုံမှ စတင်လောင်ကျွမ်းခြင်း</u>

- မီးလောင်သည်ကို သိလျှင်သိခြင်း ဦးစားပေးသတ်မှတ်ချက်အလိုက် မီးလွတ်ရာ ဒေသများသို့ပြောင်းရွှေ့ခြင်း လုပ်ငန်းကို စတင်ဆောင်ရွက်ရန်၊
- မီးကိုချက်ချင်း ငြိမ်းသတ်ရေးကို ဆောင်ရွက်ရန်၊

(ဃ) <u>ပြောင်းရွှေ့ရန်နေရာသတ်မှတ်ချက်</u> -

<u>လူနာများပြောင်းရွှေ့ရန် သတ်မှတ်နေရာများ</u>

(၁) အနောက်ပိုင်းပြည်သူ့ဆေးရုံကြီး

(၂) ရန်ကုန်ပြည်သူ့ဆေးရုံကြီး

(၃) မြောက်ဥက္ကလာပပြည်သူ့ဆေးရုံကြီး

(၄) သဃ်ကျွန်းစံပြဆေးရုံကြီး

လူနာများပြောင်းရွှေ့ရာတွင် အထက်ပါအတိုင်း အမှတ်စဉ်အလိုက် ဦးစားပေးပြောင်းရွှေ့ပေးရန်၊ လမ်းပန်းဆက်သွယ်မှု အခက်အခဲများကြောင့်သော်လည်းကောင်း၊ အခြားသော အခက်အခဲများရှိခဲ့သော်လည်းကောင်း အမှတ်စဉ်အလိုက် မပြောင်းရွှေ့နိုင်ပါက လိုအပ်သလို ဒေသပြောင်း၍ ရွှေ့ပြောင်းမှုပြုလုပ်ရန်။

<u>ငွေကြေးနှင့် စာရင်းဇယားများ၊ ဆေးဘက်ဆိုင်ရာ စက်ကိရိယာများ ပြောင်းရွှေ့ရမည့်နေရာသတ်မှတ်ချက်</u>

ငွေကြေးနှင့် စာရင်းဇယားများ မော်တော်ယာဉ်များနှင့် ဆေးဘက်ဆိုင်ရာပစ္စည်းများကို-

(၁) အုပ်ချုပ်မှုဒါရိုက်တာအိမ် (သို့) ဒေသပြောင်း၍ရွှေ့ပြောင်းမှု ပြုလုပ်ရန်

(င) <u>လူနာများပြောင်းရွှေ့ခြင်းလုပ်ငန်းကို ဆောင်ရွက်ခြင်း</u>

(၁) သက်ဆိုင်ရာ Ward M.O များသည် မိမိ Ward ရှိလူနာများအားလုံး မီးလွတ်ရာသို့ အချိန်မီပြောင်းရွှေ့ရေးအတွက် ကြီးကြပ်ဆောင်ရွက်ရမည်။

(၂) သက်ဆိုင်ရာ Ward ရှိလူနာများအား အချိန်မှီ မီးလွတ်ရာသို့ ပြောင်းရွှေ့ရေးကို ဆောင်ရွက်ရမည်။

(စ) <u>မီးဘေးကြိုတင်ကာကွယ်ရေးအဖွဲ့ ဖွဲ့စည်းခြင်း</u>

၁။ နာယက

၂။ ဥက္ကဋ္ဌ

၃။ ဒု-ဥက္ကဋ္ဌ

၄။ အဖွဲ့ဝင်များ

၅။ အတွင်းရေးမှူး

<u>အဖွဲ့၏လုပ်ငန်းတာဝန်များ</u>

၁။ မီးဘေးကြိုတင်ကာကွယ်နိုင်ရေးအတွက် လိုအပ်သော စီစဉ်မှုများဖြစ်သည့် မီးသတ်ဆေးဗူးများတစ်ထပ်လျှင် လေးလုံးကျစီ မြင်သာသောနေရာတွင် ချိတ်ဆွဲရန်၊

၂။ မီးသတ်ဆေးဗူးကို ဆေးရည်ပြည့်ဝမှုရှိ/မရှိ အမြဲစစ်ဆေးရန်၊ သုံးစွဲနည်းကို ဝန်ထမ်းများအား သင်ကြားပေးရန်၊

၃။ မီးဘေးကြိုတင်ကာကွယ်နိုင်ရေးအတွက် မီးလောင်လွယ်သည့် ပစ္စည်းများ (ဥပမာ - လောင်စာဆီများကို) စနစ်တကျထိန်းသိမ်းသိုလှောင်ရန်၊

၄။ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရေးအတွက် လျှပ်စစ်မီးသုံးစွဲမှုနှင့် လျှပ်စစ်ကြိုးများကို မပြတ်စစ်ဆေးခြင်း၊ Water Heater များသုံးစွဲခြင်းကို ဂရုပြုဆောင်ရွက်ရန်၊

၅။ မီးလောင်မှုကို အားပေးသော အောက်ဆီဂျင်လက်ကျန်ရှိ အိုးများကို ဂရုပြုထိန်းသိမ်းရန်နှင့် အောက်ဆီဂျင်ပိုက်လုံးများကိုလည်း ဂရုပြုထိန်းသိမ်းရန်၊

၆။ အကယ်၍ မီးလောင်မှုဖြစ်ပွားခဲ့လျှင် မီးလောင်သည့်နေရာသို့ သတ်မှတ်အင်အားစုများ အမြန်ဆုံးရောက်ရှိအောင် သွားရောက်ပြီး မီးသတ်နိုင်အောင်ဆောင်ရွက်ရမည်။ မီးကိုငြိမ်းသတ်ပြီးပါက မီးလောင်မှုဖြစ်ရသည့်အကြောင်းအရင်းကို စီစစ်ပြီး အားနည်းချက်များကို ထပ်မံမဖြစ်ပွားအောင် ဆောင်ရွက်ရန်၊

၇။ မီးလောင်မှုဖြစ်လျှင် ငြိမ်းသတ်၍ မနိုင်နင်းနိုင်ပါက မီးသတ်သို့ အမြန်ဆုံးအကြောင်းကြားပြီး လူနာများနှင့် လူနာစောင့်များ၊ ကယ်တင်ရေးကို အမြန်ဆုံးဆောင်ရွက်ရန်၊ လူနာခန်းများကိုလည်း မီးလောင်ကြောင်းချက်ချင်း

အသိပေး ဆောင်ရွက်ရန်၊

၈။ လူနာကယ်ရာတွင် အနီးလှေခါးများမှ မီးလောင်နေသည့် အထပ်မှ လူနာတင်၍ သယ်ဆောင်ရန်၊

၉။ မီးလောင်ရာအထပ်၏ အထက်ထပ်သို့ လူခွဲ၍ တစ်ပြိုင်နက်လူနာများကို အမြန်ဆုံးကယ်ထုတ်ရန်၊

၁၀။ အထပ်လိုက် လူခွဲပြီး လူနာကယ်တင်ရာတွင် လှေခါးများကိုဖြန့်၍ ဆင်းတက်ခြင်းဖြင့် လှေခါးတွင် စုပြုံတိုးဝှေ့ခြင်း မဖြစ်စေရန် စနစ်တကျ ဆောင်ရွက်ရန်၊

၁၁။ မီးဘေးကယ်ဆယ်ရေးလုပ်ငန်းတွင် အရေးပေါ်ဆောင်ရွက်နိုင်ရန် အဖွဲ့ခွဲများခွဲပြီးဆောင်ရွက်ရန်၊Engineering Dept. ဝန်ထမ်းများသည် မီးငြိမ်းသတ်ရေးနှင့် လူနာများအား အရေးပေါ်ဆောင်ရွက်ရန် လုံခြုံရေးဝန်ထမ်းများမှ မီးလောင်လျှင် မသမာသူများဝင်ရောက်လာနိုင်သဖြင့် မသမာသူများဝင်ရောက်မှုမရှိစေရေးနှင့် အသက်ကယ်ဆယ်ရေးကို အုပ်စုနှစ်စုခွဲ၍ ဆောင်ရွက်ရန်၊

၁၂။ အရေးကြီးစက်များ၊ ပစ္စည်းများကိုလည်း တာဝန်ရှိသူများမှ ပျက်ဆီးဆုံးရှုံးမှု မရှိအောင်အမြန်ဆုံး ကာကွယ်ရန်၊ သယ်ထုတ်ရန်၊

၁၃။ မီးဘေးကာကွယ်ရေးအတွက် ကြိုတင်စစ်ဆေးခြင်း၊ ကြိုတင်ဆက်တိုက်လေ့ကျင့်ခြင်းကို နှစ်စဉ်ဆောင်ရွက်ရန်၊

၁၄။ မီးလောင်လွယ်ကူသောပစ္စည်းများ (ဥပမာ - စက္ကူများ၊ ဂွမ်းများ၊ စောင်များ၊ ခေါင်းအုံး၊ မွေ့ရာများ)ကို စနစ်တကျ ထိန်းသိမ်းသိုလှောင်ရန်၊

(ဆ) ကြီးကြပ်အဖွဲ့အောက်ပါလုပ်ငန်းကော်မတီများကို ဖွဲ့စည်း၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) ဆက်သွယ်ပြန်ကြားရေးအဖွဲ့

(၂) မီးငြိမ်းသတ်ရေးအဖွဲ့

(၃) ကယ်ဆယ်ရေးအဖွဲ့

(၄) ပစ္စည်းသယ်ယူပြောင်းရေးအဖွဲ့

(၅) လုံခြုံရေးအဖွဲ့

(၁) ဆက်သွယ်ပြန်ကြားရေးအဖွဲ့

၁။ အဖွဲ့ခေါင်းဆောင်

၂။ အဖွဲ့ဝင်များ

(၁) ဆက်သွယ်ပြန်ကြားရေးအဖွဲ့မှ မီးလောင်မှုဖြစ်ပွားလျှင် အောက်ပါအတိုင်းဆောင်ရွက်ရန် -

- ဒါရိုက်တာများအား ချက်ချင်းအကြောင်းကြားရန်၊
- မီးသတ်အဖွဲ့ဖုန်းကိုအကြောင်းကြားရန်၊
- ရဲတပ်ဖွဲ့ကို အကြောင်းကြားရန်၊
- အခြားအဖွဲ့များအချင်းချင်း ဆက်သွယ်မှုကို ဆောင်ရွက်ပေးရန်၊
- လူနာများအား အခြေအနေများကို ဆက်သွယ်ပြောကြားပေးရန်၊

(၂) မီးငြိမ်းသတ်ရေးအဖွဲ့မှ မီးလောင်မှုဖြစ်ပွားလျှင် အောက်ပါအတိုင်း လုပ်ငန်းဆောင်ရွက်ရန် -

- မီးလောင်မှုဖြစ်သည်ကို သိလျှင်သိခြင်း မီးလောင်ရာသို့ အမြန်ရောက်ရှိအောင်သွား၍ မီးငြိမ်းသတ်ရန်၊
- မီးလောင်မှုကို ဆက်လက်ကူးစက်မှုမရှိရေးအတွက် လောင်စာများအမြန်ဆုံး ဖြတ်တောက်ရန်၊
- မီးငြိမ်းသတ်ရေးပစ္စည်းများအမြန်ဆုံးရယူပြီး မီးကိုအမြန်ဆုံးငြိမ်းသတ်ရေးဆောင်ရွက်ရန်၊
- မီးသတ်တပ်ဖွဲ့နှင့် ပူးပေါင်း၍ ငြိမ်းသတ်ရေးကို ဆောင်ရွက်ရန်၊
- မီးငြိမ်းသတ်ရေးအတွက် လိုအပ်သော ဆောင်ရွက်မှုများ ဆောင်ရွက်ရန်၊

(၃) ကယ်ဆယ်ရေးအဖွဲ့

(၁) အဖွဲ့ခေါင်းဆောင်

(၂) အဖွဲ့ဝင်များ

ကယ်ဆယ်ရေးအဖွဲ့မှ အောက်ပါအတိုင်းလုပ်ငန်းဆောင်ရွက်ရန် -

(၁) မီးလောင်မှုဖြစ်ပွားခဲ့လျှင် အထပ်လိုက်တာဝန်ကျများမှ မီးနှင့် အနီးဆုံးနေရာမှ လူနာများကို အမြန်ဆုံး သယ်ထုတ်ရန်၊

(၂) သယ်ပို့ရာတွင် ဓါတ်လှေကားကို အသုံးမပြုဘဲ လှေကားများမှ သယ်ပို့ရန်၊
(၃) ရှေ့လှေကားနှင့် ဘေးလှေကားကို ဦးစားပေးသတ်မှတ်ထားသောနေရာသို့ သယ်ပို့ပေးရန်၊
(၄) လူနာများကို ဦးစားပေးသတ်မှတ်ထားသော နေရာသို့ သယ်ပို့ပေးရန်၊
(၅) လူနာများသယ်ယူရွှေ့ပြောင်းရာတွင် အန္တရာယ်ကင်းရှင်းစွာ ဆောင်ရွက်နိုင်ရေးအတွက် ဆရာဝန်များ၊ ဆရာမများက အနီးကပ်စောင့်ရှောက်ရန်၊
(၆) လူနာများကယ်ဆယ်ရာတွင် လှေကားဖြင့်ဆင်း၍ သယ်ယူရွှေ့ပြောင်းရာ၌ လှေကားတွင် စုပြုံတိုးဝှေ့မှု မရှိစေရေးအတွက် စနစ်တကျဆောင်ရွက်ရန်၊
(၇) လူနာများကို သယ်ယူရွှေ့ပြောင်းရာတွင် သယ်ယူရေးယာဉ်များအနေဖြင့် Ambulance ယာဉ်များကို အဓိကထားသုံးစွဲပြီး လိုအပ်ပါက လူစီးမော်တော်ယာဉ်များဖြင့် အသုံးပြုရန်၊

(၄) ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့
(၁) အဖွဲ့ခေါင်းဆောင်
(၂) ဒု - အဖွဲ့ခေါင်းဆောင်
(၃) အဖွဲ့ဝင်များ

ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့မှ မီးလောင်မှုဖြစ်ပွားလာပါက အောက်ပါအတိုင်း လုပ်ငန်းဆောင်ရွက်ရန် -
- အဖွဲ့ခေါင်းဆောင်/ဒု-အဖွဲ့ခေါင်းဆောင်မှ အရေးတကြီးသယ်ရန် တာဝန်ပေးသောပစ္စည်းများ ဦးစားပေးရန်၊
- ပစ္စည်းသယ်ယူရွှေ့ပြောင်းရာတွင် ငွေကြေးနှင့် စာရင်းဇယားများ ဆေးဘက်ဆိုင်ရာ စက်ပစ္စည်းများ၊ ဆေးနှင့် ဆေးပစ္စည်းများကို အဆင့်အလိုက်သတ်မှတ်ပြီး သယ်ယူရွှေ့ပြောင်းရန် (ဦးစားပေးအဆင့်ကို ဌာနအလိုက် တာဝန်ခံများမှ သတ်မှတ်၍ ပြောင်းရွှေ့ရန်)
- သယ်ယူရွှေ့ပြောင်းရန် သတ်မှတ်ထားသော နေရာသို့ ပျောက်ချမှုမရှိစေရေး ဂရုစိုက်သယ်ဆောင်ရန်၊
- ရွှေ့ပြောင်းရမည့်နေရာသည် ဆေးရုံနှင့် ဝေးကွာသဖြင့်ကားဖြင့် တစ်ဆင့်သယ်ယူရမည့်ဖြစ်၍ သယ်ယူမည့်ကား အသင့်ပြုလုပ်ရန်နှင့် ကားအဆင်သင့်မရှိသည့်အခါ Car Parking သို့ယာယီ Trasfer အနေဖြင့် ဆောင်ရွက်ရန်၊
- ယာဉ်မောင်းအနေဖြင့် မော်တော်ယာဉ်များ မီးလွတ်ရာသို့ မောင်းယူသွားပြီး ဆေးခန်းကြီးမှ လူနာများ၊ ပစ္စည်းများ၊ ပြောင်းရွှေ့သယ်ယူပို့ဆောင်ရေးလုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၅) လုံခြုံရေးအဖွဲ့
(၁) အဖွဲ့ခေါင်းဆောင်
(၂) ဒု - အဖွဲ့ခေါင်းဆောင်
(၃) အဖွဲ့ဝင်များ

လုံခြုံရေးအဖွဲ့မှာ မီးလောင်မှုဖြစ်ပွားလာခဲ့လျှင် အောက်ပါအတိုင်းဆောင်ရွက်ရန်၊
- မီးလောင်မှုလာလျှင် မသမာသူများ ဝင်ရောက်လုယက်မှုဖြစ်ပွားလာနိုင်သဖြင့် မသမာသူများ ဝင်ရောက်မှု မရှိစေရန် ဆေးရုံထဲသို့ဝင်ရောက်နိုင်သော ဝင်ပေါက်အားလုံးရှေ့တွင် လုံခြုံရေးဝန်ထမ်းများအဖြစ် တာဝန်ချထားရန်၊
- ဆေးရုံကြီးရှေ့တွင် ကယ်ဆယ်ရေးအဖွဲ့မှ ကယ်တင်၍ ရောက်ရှိလာသောသူများကို ဆက်လက် သယ်ယူပို့ဆောင်ရေး ဆောင်ရွက်ရန်အတွက် ဝန်ထမ်းများအား တာဝန်ချထားရန်၊
- သယ်ယူရွှေ့ပြောင်း၍ ရောက်ရှိပစ္စည်းများကို ယာယီထားမည့် Car Parking ဝန်းအတွင်း လုံခြုံရေးကိုတာဝန်ကျဝန်ထမ်း (    )ဦးမှ တာဝန်ယူရန်၊
- ရောက်ရှိလာသော ပြည်သူ့ရဲဝန်ထမ်းများနှင့် ပူးပေါင်းလုံခြုံရေးတာဝန်ယူရန်။

၂။ လေဘေးနှင့် မြေငလျင်ဘေး
(က) ကြိုတင်ကာကွယ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်း
- မိုးလေဝသနှင့် ဇလဗေဒ ဦးစီးဌာနမှ အရေးပေါ်ထုတ်ပြန်သော သတင်းများအား ရေဒီယိုနှင့် ရုပ်မြင်သံကြားအား စဉ်ဆက်မပြတ် နားထောင်ရန်၊
- ရရှိသည့် သတင်းအချက်အလက်များအပေါ် မူတည်ပြီး ဆေးကုသမှုခံယူလျက်ရှိကြသော ဝေဒနာရှင်

များ အသက်ဘေးကို အတတ်နိုင်ဆုံးကာကွယ်စောင့်ရှောက်ရန်နှင့် အထိတ်တလန့် မဖြစ်စေရန်၊ သက်ဆိုင်ရာ ဝန်ထမ်းများမှ အနီးကပ်အားပေးစကား ပြောကြားရန်၊

- ဘေးအန္တရာယ်အခြေအနေဆိုးရွားလာသည့် အနေအထားရောက်ပါက သက်ဆိုင်ရာ ဝန်ထမ်းများ Stand By ရှိနေရန်၊
- လိုအပ်ပါက ဆေးကုသမှုခံယူလျက်ရှိကြသော ဝေဒနာရှင်များအားဘေးလွတ်ကင်းရာသို့ ရွှေ့ပြောင်းရန်။

(ခ) လူနာများ ပြောင်းရွှေ့ခြင်းလုပ်ငန်းဆောင်ရွက်ခြင်း

- သက်ဆိုင်ရာ Ward M.O များသည် မိမိ Ward ရှိလူနာများအားလုံး ဘေးလွတ်ရာသို့ အချိန်မှီ ပြောင်းရွှေ့ရေးအတွက် ကြီးကြပ်ဆောင်ရွက်ရမည်၊
- သက်ဆိုင်ရာ Ward ရှိ တာဝန်ကျ ဝန်ထမ်းများသည် Ward M.O ၏ကြီးကြပ်မှုကို ခံယူလျက် မိမိ Ward ရှိ လူနာများအား အချိန်မှီ ဘေးလွတ်ရာသို့ ပြောင်းရွှေ့ရေးကို ဆောင်ရွက်ရမည်။

(ဂ) လေဘေးသင့်မြေငလျင်ဘေး ကြိုတင်ကာကွယ်ရေးအဖွဲ့ ဖွဲ့စည်းခြင်း

| | | |
|---|---|---|
| ၁။ | M.D | နာယက |
| ၂။ | Director အဖွဲ့ | နာယက |
| ၃။ | HOD (HR) | ဥက္ကဋ္ဌ |
| ၄။ | HOD (Medical) | ဒု-ဥက္ကဋ္ဌ |
| ၅။ | HOD (Eng;) | ဒု-ဥက္ကဋ္ဌ |
| ၆။ | HOD များ | အဖွဲ့ဝင်များ |

အဖွဲ့၏ လုပ်ငန်းတာဝန်များ

- လေဘေး၊ မြေငလျင်ဘေး ကြိုတင်ကာကွယ်နိုင်ရေးအတွက် လိုအပ်သော စီစဉ်မှုများပြုလုပ်နိုင်ရန်အတွက် အရေးပေါ်ထုတ်ပြန်သည့် သတင်းအချက်အလက်များအား စဉ်ဆက်မပြတ်စောင့်ကြည့်ရန်၊
- အရေးပေါ်ထုတ်ပြန်သည့် သတင်းအချက်အလက်များအား စဉ်ဆက်မပြတ် စောင့်ကြည့်ရန်၊
- အရေးပေါ်ထုတ်ပြန်သည့် သတင်းအချက်အလက်များ မူတည်၍ ကယ်ဆယ်ရေးလုပ်ငန်းများ ဆောင်ရွက်ရန်၊
- အထပ်လိုက်လူခွဲပြီး လူနာတင်ရာတွင် လှေကားများကို ဖြန့်၍ ဆင်း/တက်ခြင်းဖြင့် လှေကားတွင် စုပြုံတိုးဝှေ့ခြင်းမဖြစ်စေရန် စနစ်တကျ ဆောင်ရွက်ရန်၊

ကြီးကြပ်အဖွဲ့ အောက်ပါလုပ်ငန်းကော်မတီများကို ဖွဲ့စည်း၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်

(၁) ဆက်သွယ်ပြန်ကြားရေးအဖွဲ့

| | | |
|---|---|---|
| ၁။ | HOD (H.S.D) | အဖွဲ့ခေါင်းဆောင် |
| ၂။ | Sr. Nursing Manager | အဖွဲ့ဝင် |
| ၃။ | Sr. Nursing Manager | အဖွဲ့ဝင် |
| ၄။ | H.S.D.D မှ တာဝန်ကျဝန်ထမ်းအားလုံး | အဖွဲ့ဝင် |

ဆက်သွယ်ပြန်ကြားရေးအဖွဲ့မှ လေဘေးနှင့် မြေငလျင်ဘေးအန္တရာယ်ဖြစ်ပွားလျှင် အောက်ပါအတိုင်း ဆောင်ရွက်ရန် -

- ဒါရိုက်တာများအား ချက်ချင်းအကြောင်းကြားရန်၊
- မီးသတ်အဖွဲ့ဖုန်းကိုအကြောင်းကြားရန်၊
- ရဲတပ်ဖွဲ့ကို အကြောင်းကြားရန်၊
- အခြားအဖွဲ့များအချင်းချင်း ဆက်သွယ်မှုကို ဆောင်ရွက်ပေးရန်၊
- လူနာများအား အခြေအနေများကို ဆက်သွယ်ပြောကြားပေးရန်၊

(၂) ကယ်ဆယ်ရေးအဖွဲ့

| | | |
|---|---|---|
| ၁။ | HOD (Medical) | အဖွဲ့ခေါင်းဆောင် |
| ၂။ | တာဝန်ကျ MO များအားလုံး | အဖွဲ့ဝင်များ |
| ၃။ | တာဝန်ကျ Nurse များအားလုံး | အဖွဲ့ဝင်များ |

ကယ်ဆယ်ရေးအဖွဲ့မှ အောက်ပါအတိုင်း လုပ်ငန်းဆောင်ရွက်ရန်-

- လူနာများ သယ်ယူရွှေ့ပြောင်းရာတွင် အန္တရာယ်ကင်းရှင်းစွာ ဆောင်ရွက်နိုင်ရေးအတွက် ဆရာဝန်များ၊ ဆရာမများက အနီးကပ်စောင့်ရှောက်ရန်၊
- လူနာများ ကယ်ဆယ်ရေးတွင် သယ်ယူရေးယာဉ်များအနေဖြင့် Ambulance ယာဉ်များကို အဓိကထား သုံးစွဲပြီး လိုအပ်ပါက လူစီးမော်တော်ယာဉ်များဖြင့် အသုံးပြုရန်။

(၃) လုံခြုံရေးအဖွဲ့

(၁) အဖွဲ့ခေါင်းဆောင်
(၂) ဒု-အဖွဲ့ခေါင်းဆောင်
(၃) အဖွဲ့ဝင်

လုံခြုံရေးအဖွဲ့မှာ လေဘေး၊ မြေငလျင်ဘေး ဖြစ်ပွားလာလျှင် အောက်ပါအတိုင်းဆောင်ရွက်ရန် -

- မသမာသူများ ဝင်ရောက်လုယက်မှု ဖြစ်ပွားနိုင်သဖြင့် မသမာသူများဝင်ရောက်မှု မရှိစေရန် ဆေးရုံအတွင်းသို့ ဝင်ရောက်နိုင်သောဝင်ပေါက်အားလုံးရှေ့ လုံခြုံရေးဝန်ထမ်းများအား တာဝန်ချထားရန်၊
- ဆေးခန်းကြီးရှေ့တွင် ကယ်ဆယ်ရေးအဖွဲ့မှ ကယ်တင်၍ ရောက်ရှိလာသောသူများကို ဆက်လက်သယ်ယူ ပို့ဆောင်ရေး ဆောင်ရွက်ရန်အတွက် ဝန်ထမ်းများအား တာဝန်ချထားရန်၊
- ရောက်ရှိလာသော ပြည်သူ့ရဲဝန်ထမ်းများနှင့် ပူးပေါင်းလုံခြုံရေးတာဝန်ယူရန်၊

နိဂုံး

Botahtaung Health Care ဆေးခန်းကြီး၏ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် မီးလုန့်မှုအန္တရာယ် မရှိစေရေးအတွက် အဖွဲ့ဝင်တိုင်းနှင့် ဝန်ထမ်းများအားလုံးတွင် တာဝန်ရှိကြသဖြင့် တာဝန်ယူမှု၊ စုပေါင်းတာဝန် ထမ်းဆောင်မှုဖြင့် မီးဘေးအန္တရာယ် လုံးဝမရှိစေရန် ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ လေဘေးနှင့် ငလျင်ဘေးအန္တရာယ် ပေါ်ပေါက်ပါကလည်း အန္တရာယ်မရှိစေရေးအတွက် အဖွဲ့ဝင်တိုင်းနှင့် ဝန်ထမ်းအားလုံးတွင် တာဝန်ရှိကြသဖြင့် တာဝန်ယူမှု၊ စုပေါင်းတာဝန် ထမ်းဆောင်မှုဖြင့် အန္တရာယ်လုံးဝမရှိစေရန် ဆောင်ရွက်ကြရေးအတွက် စည်းစည်းလုံးလုံး ညီညီညွတ်ညွတ် ပူးပေါင်းဆောင်ရွက်ကြရမည်ဖြစ်ပေသည်။

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း မီးဘေး၊ လေဘေးနှင့် မြေငလျင်ဘေး အန္တရာယ်ပေါ်ပေါက်သော်လည်း ဘေးအန္တရာယ် ကင်းရှင်းရေးကို အထူးဦးစားပေးဆောင်ရွက်ရန် ဖြစ်ပါသည်။

# Botahtaung Health Care Co., Ltd

# (Hospital & Lifestyle Mixed-Development Project)

**tvyorm;ouuomacsmicsa&;Ei vyie;ciom ,ma&;tptp0**

Botahtaung Health Care Co., Ltd

(Hospital & Lifestyle Mixed-Development Project)

**tvyorm;ouomacmica&;Ei vyie;ciom,ma&;tptp0**

Botahtaung Health Care Co., Ltd \ 0exr;rsm;tm;v;twu atmuazmjyyg ouomacsmics a&; tptp0rsm; aqmi&uay;rnjzpygon/

(1) 0exr;ul^y,m0rsm; pp0ay;ygrn/

(2) 0exr;rsm;twu Uniform pp0ay;ygrn/

(3) e,r vma&muwm0exr;aqmiaom 0exr;rsm; (traxmir&orsm;) twu taqmipp0ay;yg rn/

(4) 0exr;rsm; pm;aomua&; tqiajyap&eEi ouomacsmicsa&; twu

(4.1) xri;aul;&e (Meal Service) pp0ay;rn/

(4.2) pm;aomuqi (Canteen) vuzu&nqi zivpay;ygrn/

(5) 0exr;rsm;twu oma&;^ema&; toi;rsm; zlpn;ay;ygrn/

(6) 0gqoCe;quuyjci;Ei uxeoCe;uyvljci; pon tvltwe;rsm;u Epp0jyvyay;rn/

(7) 0exr;rsm; oma&;^ema&;Ei 0wjyEi&e b&m;ce;o;oexm;&ay;ygrn/

(8) 0exr;rsm;\ om;or;rsm;twu ynmoiaxmuyalu;Ei Scholarship Program rsm; pp0ay;ygrn/

(9) 0exr;rsm;twu tye;ajzem;aece; pp0ay;ygrn/

(10) 0exr;rsm; pwtye;ajyap&e Epp0 tye;ajzc&;pp0ay;ygrn/

(11) 0exr;rsm;twu aysmy&iyEi Staff Party u Epp0jyvyay;ygrn/

(12) 0exr;rsm;\ oma&; ema&;twu axmuyairsm;pp0ay;ygrn/

(13) 0exr;rsm;twu tempm&yairsm; xn0iay;jci;

(14) 0exr;rsm;twu toutmrcxm;&ay;jci;